# မွန္တလေး–လားရှိုး–မူဆယ် ပြည်ထောင်စုလမ်းမကြီး၏

## ကျောက်မဲ – လားရှိုး ( မိုင်တိုင် ၁၂၃/၀ မှ ၁၇၂/၀ ထိ )

## ( ၄၉ )မိုင် လမ်းအပိုင်းကို

## ပြုပြင်ဖေါက်လုပ် လုပ်ငန်းလုပ်ကိုင်ရေး

## အဆိုပြုတင်ပြချက်

အေးရှားဝါး(လ်)ကုမ္ပဏီလီမိတက်

၂၀၀၈ ခုနှစ်



**လျှို့ဝှက်**

၂

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
**ဆောက်လုပ်ရေးဝန်ကြီးဌာန**

စာအမှတ်၊ ၁/ခွဲ-၂/ထွေ/၂၀၀၈(ကုမ္ပဏီ)(စီ ၄၄၂)
ရက် စွဲ၊ ၂၀၀၈ ခုနှစ် ဇန်နဝါရီလ ၂၃ ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **အေးရှားဝေါလ်ကုမ္ပဏီလီမိတက်မှ မန္တလေး-လားရှိုး-မူဆယ် ပြည်ထောင်စုလမ်းမကြီး၏ ကျောက်မဲ - လားရှိုးလမ်းအပိုင်း (မိုင်တိုင် ၁၂၃/၀ မှ ၁၇၂/၀အထိ ၄၉မိုင်)ပြုပြင်ဖောက်လုပ်ခြင်းလုပ်ငန်းဆောင်ရွက်ရန်အတွက် ဆောက်လုပ်ရေးဝန်ကြီးဌာနမှတဆင့် အဆိုပြုချက်တင်ပြခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၀၇ခုနှစ် ဒီဇင်ဘာလ (၂၆)ရက်နေ့စွဲပါစာအမှတ်၊ ရက - ၆ (က) / မ-၉၉၁ / ၂၀၀၇ (၁၁၅၇၄-၃)

၁။ အကြောင်းအရာပါကိစ္စနှင့်စပ်လျဉ်း၍ မန္တလေး-လားရှိုး-မူဆယ်ပြည်ထောင်စုလမ်းမကြီး၏ ကျောက်မဲ-လားရှိုးလမ်းအပိုင်းအား အေးရှားဝါး(လ်)ကုမ္ပဏီလီမိတက်မှ ပြုပြင်ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခကောက်ခံခြင်း လုပ်ငန်းဆောင်ရွက်နိုင်ရန် တင်ပြထားခြင်းအပေါ် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ကုန်သွယ်မှုမူဝါဒကောင်စီ၏ (၇၇/၂၀၀၇) အစည်းအဝေးသို့ တင်ပြခဲ့ပြီး အစည်းအဝေးဆုံးဖြတ်ချက်များအား ရည်ညွှန်းချက်ပါစာဖြင့် ပြန်ကြားလာခဲ့ပါသည်။

၂။ အဆိုပါအစည်းအဝေးဆုံးဖြတ်ချက်များအနက် စာပိုဒ်(၂) စာပိုဒ်ခွဲ(င)ပါ ဆုံးဖြတ်ချက်အရ အစိုးရအဖွဲ့သို့ ဆက်လက်တင်ပြရန်အတွက် အဆိုပြုချက် (၁၃)စုံအား Adobe Acrobat Reader (Pdf) File ဖြင့် ထည့်သွင်းထားသော CD Copy (၁)ချပ်တို့အား ပြုစု၍ ပြန်လည်ပူးတွဲပေးပို့အပ်ပါသည်။

23.1.08

ဝန်ကြီး(ကိုယ်စား)
(ကျော်ဝင်း၊ ရုံးအဖွဲ့မှူး)

**လျှို့ဝှက်**



# ASIA WORLD COMPANY LIMITED

NO.(61-62), BAHOSI DEVELOPMENT, WADAN STREET, LANMADAW TOWNSHIP, YANGON, MYANMAR.
TEL : 225271, 220074, 225982, 225184, 222422, FAX:(95-1) 227474, 227553, E-Mail:awc@mptmail.net.mm.

စာအမှတ်။ AWC / KM-LSO Road/ 2008
ရက်စွဲ။ ။ ၂ - ၀၁ - ၂၀၀၈

သို့

ဝန်ကြီး
ဆောက်လုပ်ရေးဝန်ကြီးဌာန

အကြောင်းအရာ။ **မန္တလေး-လားရှိုး-မူဆယ် ပြည်ထောင်စု လမ်းမကြီးတွင် မိုင်တိုင် ၁၂၃/၀ မှ ၁၇၂/၀ ထိ (၄၉)မိုင် လမ်းအပိုင်းကို ကုမ္ပဏီမှ ဆက်လက် တာဝန်ယူ ပြုပြင် ဖေါက်လုပ်ခွင့် ပြုပါရန် အဆိုပြုချက်။**

ရည်ညွှန်းချက် ။ (၁) ကုမ္ပဏီ၏ ၂၀-၈-၂၀၀၇ ရက်စွဲပါစာအမှတ် AWC /Road-360/2007
(၂) ဆောက်လုပ်ရေးဝန်ကြီးဌာန၏ ၂၂-၁၀-၂၀၀၇ ရက်စွဲပါ စာအမှတ် ၁/ခွဲ-၂ ထွေ /၂၀၀၇(ကုမ္ပဏီ) (စီ-၅၇၂၄)
(၃) ဆောက်လုပ်ရေးဝန်ကြီးဌာန၏ ၂၉-၁၁-၂၀၀၇ ရက်စွဲပါ စာအမှတ် ၁/ခွဲ-၂ ထွေ /၂၀၀၇(ကုမ္ပဏီ) (စီ-၆၄၄၄)
(၄) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ စာအမှတ်-
(က) ရက-၆(က) မ-၉၉၁ ၂၀၀၇(၉၆၂၀-၈) ( ၂၀-၁၁-၂၀၀၇)
(ခ) ရက-၆(က) မ-၉၉၁ ၂၀၀၇(၁၁၅၇၄-ဠ)( ၂၆-၁၂-၂၀၀၇)

၁။ ကျွန်တော်များ Asia World Co.,Ltd သည် မန္တလေး-ပြင်ဦးလွင်-နောင်ချို-လားရှိုး-မူဆယ် ပြည်ထောင်စုလမ်းမကြီး၏ မိုင်တိုင် ၁၂၃/၀ မှ ၁၇၂/၀ ထိ (၄၉-မိုင်) ကျောက်မဲ-လားရှိုး လမ်းအပိုင်းကို ရည်ညွှန်းချက်(၂)(၃)တို့ဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ခွင့်ပြုမိန့် ရရှိရေးအတွက် အဆိုပြုလွှာကိုတင်ပြခဲ့ပါသည်။

၂။ အဆိုပြုချက်နှင့် ပတ်သက်၍ ရည်ညွှန်းချက်-၄(က)အရ ကုမ္ပဏီအား လုပ်ငန်းလုပ်ကိုင်ခွင့် ပြုရန်၊ စာချုပ် စတင်သည့်နေ့ကို လုပ်ငန်းလွှဲပြောင်းလက်ခံသည့် ၂၆-၇-၂၀၀၆ရက်နေ့မှ စတင်သတ်မှတ်ရန်၊စီမံကိန်း တည်ဆောက်ရေးကာလကို (၃)နှစ် သတ်မှတ်ရန်၊၂၆-၇-၂၀၀၇ရက်နေ့မှ ဝင်ငွေခွန်(၃)နှစ် ကင်းလွှတ်ခွင့်ပြုရန်နှင့် အစိုးရအဖွဲ့သို့ ဆက်လက်တင်ပြရန် ဆုံးဖြတ်ခဲ့ပြီး၊ ရည်ညွှန်းချက်-၄(ခ)အရ ဝင်ငွေခွန်(၃)နှစ် ကင်းလွှတ်ခွင့်ကို ခွင့်မပြုရန် ပြင်ဆင် ဆုံးဖြတ်ခဲ့ပါသည်။

၃။ ထို့အတွက် အဆိုပြုချက်တွင် ငွေကြေးဆိုင်ရာ စာရင်းဇယား တွက်ချက်မှု၌ ဝင်ငွေခွန် (၃၀%)(Income Tax 30%)ကို (၃)နှစ် ကင်လွှတ်ခွင့်ဖြင့် တွက်ချက်တင်ပြထားမှုအား ရည်ညွှန်းချက် ၄(ခ)အရ၊ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ-၁၂ အရ ဝင်ငွေခွန် (၃)နှစ်ကို ကင်းလွှတ်ခွင့် မပြုသည့်အတွက် ငွေကြေးဆိုင်ရာစာရင်းဇယား တွက်ချက်မှုတွင် ဝင်ငွေခွန် (၃၀%) (Income Tax 30%) ထည့်သွင်း တွက်ချက်ပြီး ပြန်လည်ပြင်ဆင်၍ တင်ပြအပ်ပါသည်။



# ASIA WORLD COMPANY LIMITED

NO.(61-62), BAHOSI DEVELOPMENT, WADAN STREET, LANMADAW TOWNSHIP, YANGON, MYANMAR.
TEL : 225271, 220074, 225982, 225184, 222422, FAX:(95-1) 227474, 227553, E-Mail:awc@mptmail.net.mm.

၄။ ကျွန်တော်များကုမ္ပဏီအနေဖြင့် အဆိုပြုလမ်းစီမံကိန်းတွင် လမ်းနှင့်တံတား ပြုပြင်မှု၌ ငွေကျပ် သန်းပေါင်း (၁၀၀၀)ကျော်နှင့် (USD-156,233)ကို သုံးစွဲခဲ့ပြီး၊ ဒိုင်းမွန်းပဲလေ့စ်ကုမ္ပဏီသို့ ၄င်း၏ပေးဆပ်ရန် ကြွေးမြီများအတွက် ကျပ်သန်းပေါင်း(၁၂၅၅)ကျော်ကို ပေးချေးခဲ့ပြီးဖြစ်၍ စုစုပေါင်း ငွေကျပ်သန်း (၂၂၅၅)ကျော်နှင့် (USD-156233)ကို စီမံကိန်းတွင် သုံးစွဲပြီးဖြစ်ပါသည်။ စီမံကိန်းတွင် လမ်းပြုပြင်ခြင်းတွင် ကျပ်သန်းပေါင်း(၄၀၀၀)ကျော်နှင့် တံတားကြီး(၂)စင်း တည်ဆောက်မှုတွင် ကျပ်သန်း(၈၀၀)နှင့် (USD-1.2 Million)ကို သုံးစွဲရမည်ဖြစ်၍ ငွေကြေးအမြောက်အများ ရင်းနှီးမြှုပ်နှံရမည်ဖြစ်ပါသဖြင့် ကုမ္ပဏီ၏ လုပ်ငန်းသစ် တစ်ခုအနေဖြင့် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ခွင့်ပြုမိန့် ရရှိရေအတွက် အဆိုပြု တင်ပြခဲ့ခြင်းဖြစ်ပါသည်။

၅။ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ခွင့်ပြုမိန့်ဖြင့် လုပ်ငန်းဆောင်ရွက်ခွင့်ရရှိသည့် စီးပွားရေးလုပ်ငန်းတိုင်းအတွက် ဥပဒေပုဒ်မ-၁၂အရ ဝင်ငွေခွန်(၃)နှစ် ကင်းလွတ်ခွင့်ပြုခဲ့ပါသော်လည်း၊ ကုမ္ပဏီ၏ ယခုအဆိုပြုလုပ်ငန်းအတွက် ဥပဒေပုဒ်မ-၁၂အရ ဝင်ငွေခွန်(၃)နှစ် ကင်းလွတ်ခွင့် မရရှိပါသဖြင့်၊ စီမံကိန်း၏ တည်ဆောက်ရေး ကာလ(၃)နှစ် ခွင့်ပြုထားပြီးဖြစ်ပါ၍ ဥပဒေပုဒ်မ-၁၃ အရ တည်ဆောက်ရေးကာလအတွင်း ရင်းနှီးမြှုပ်နှံမှုအရ ပြည်ပမှ တင်သွင်းသည့် ကုန်ကြမ်း၊ စက်ပစ္စည်း အလားတူပစ္စည်းများတို့အတွက် အကောက်ခွန်နှင့် ပြည်တွင်း အခွန်အခများကို ကင်းလွတ်ခွင့် ပြုထားပါသည်။

၆။ ထို့အတွက် ဥပဒေပုဒ်မ-၁၃ ကို ခံစားခွင့်ပြုပါရန်နှင့် အဆိုပြုလုပ်ငန်း၏ ပဋိညာဉ်စာချုပ်(မူကြမ်း)တွင် ဥပဒေပုဒ်မ-၁၂နှင့် ၁၃တို့နှင့် သက်ဆိုင်သည့် စာချုပ် အပိုဒ်-၁၃(စ)တွင် ဖော်ပြချက်ပါ -

"လုပ်ငန်းလုပ်ကိုင်ခွင့်ရသူသည် လမ်း-တံတားအသုံးပြုခ ကောက်ခံရရှိမှုအပေါ် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂ နှင့် ၁၃ တို့အရ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များ ရရှိစေရန် ဥပဒေနှင့်အညီ ကူညီဆောင်ရွက် ပေးရမည်။ "

စာပိုဒ်အစား

"လုပ်ငန်းလုပ်ကိုင်ခွင့်ရသူသည် လမ်း-တံတားအသုံးပြုခ ကောက်ခံ ရရှိမှုအပေါ် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၃ တို့အရ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များ ရရှိစေရန် ဥပဒေနှင့်အညီ ကူညီဆောင်ရွက် ပေးရမည်။ "

ဟုပြင်ဆင်ခွင့် ပြုပါရန် တင်ပြအပ်ပါသည်။



# ASIA WORLD COMPANY LIMITED

NO.(61-62), BAHOSI DEVELOPMENT, WADAN STREET, LANMADAW TOWNSHIP, YANGON, MYANMAR.
TEL : 225271, 220074, 225982, 225184, 222422, FAX:(95-1) 227474, 227553, E-Mail:awc@mptmail.net.mm.

၇။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်ဖြင့် ဆောင်ရွက်သည့် စီးပွားရေးလုပ်ငန်းတိုင်းအတွက် လုပ်ငန်းလုပ်ကိုင်သူများမှ ဥပဒေပုဒ်မ- ၁၂ ကို ရရှိကြပါသော်လည်း၊ ယခုအဆိုပြု စီမံကိန်းတွင် ခံစားခွင့်မရရှိသည့်အတွက်ကြောင့်၎င်း၊ အထက်တင်ပြခဲ့ပါအတိုင်း စီမံကိန်းတွင် ငွေကြေး အမြောက်အများ ရင်းနှီးမြှုပ်နှံရမည်ဖြစ်ခြင်းကြောင့်၎င်း၊ ပြည်သူ့ဆောင်လုပ်ရေးလုပ်ငန်းနှင့် ကုမ္ပဏီတို့အကြား ချုပ်ဆိုခဲ့ပြီးသည့် လမ်းစီမံကိန်းများ၏ ပဋိညာဉ်စာချုပ်များပါအတိုင်း လမ်းအသုံးပြုခ ကောက်ခံရငွေ၏ ပထမ (၃)နှစ်မှ (၁၀%)အား ဌာနသို့ ပေးသွင်းမှုအား ကင်းလွတ်ခွင့်ပြုထားခဲ့သည့်နည်းတူ ယခုအဆိုပြု စီမံကိန်းတွင်လည်း ခွင့်ပြုပေးပါရန် တင်ပြအပ်ပါသည်။ အဆိုပါ ကင်းလွတ်ခွင့်သည့် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂ အရ ဝင်ငွေခွန် (၃၀%) (Income Tax 30%) နှင့် သက်ဆိုင်မှုမရှိပါသဖြင့် ခွင့်ပြုပေးနိုင်ပါရန် ရှင်းလင်းတင်ပြအပ်ပါသည်။

၈။ ပဋိညာဉ်စာချုပ်(မူကြမ်း)တွင် အခြားပြဋ္ဌာန်းချက်များနှင့် ဖေါ်ပြပါရှိချက်များအား ပြည်သူ့ဆောင်လုပ်ရေးလုပ်ငန်းနှင့် ကုမ္ပဏီတို့အကြား ချုပ်ဆိုခဲ့ပြီးသည့် ယခင် လမ်းအပိုင်းစီမံကိန်းများ၏ ပဋိညာဉ်စာချုပ်ပါအတိုင်း ဖြစ်ပါသည်။

၉။ သို့ဖြစ်ပါ၍ ကျွန်တော်များကုမ္ပဏီ၏ အဆိုပြုချက်အား ရည်ညွှန်းချက်-၄(ခ)အရ ပြင်ဆင်ထားသည့် အဆိုပြုချက်ကို အစိုးရအဖွဲ့ရုံးသို့ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် မှတစ်ဆင့် ဆက်လက်တင်ပြပေးနိုင်ပါရန် လေးစားစွာ ပြန်လည် ပြင်ဆင် အဆိုပြု တင်ပြအပ်ပါသည်။

လေး စား စွာ ဖြင့်

U MAUNG KYAY
DIRECTOR
ASIA WORLD CO., LTD.

မိတ္တူကို -

(၁) ဒုတိယဝန်ကြီး၊ဆောက်လုပ်ရေးဝန်ကြီးဌာန
(၂) ဦးဆောင်ညွှန်ကြားရေးမှူး၊ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း။



# ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
# ဆောက်လုပ်ရေးဝန်ကြီးဌာန

စာအမှတ်၊ ၁/ခွဲ-၂/ထွေ/၂၀၀၇(ကုမ္ပဏီ)(စီ ၆၄၄၄)
ရက် စွဲ၊ ၂၀၀၇ ခုနှစ် နိုဝင်ဘာလ ၂၉ ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ အေးရှားဝေါလ်ကုမ္ပဏီလီမိတက်မှ ကျောက်မဲ - လားရှိုးလမ်းအပိုင်း (မိုင်တိုင် ၁၂၃/၀ မှ ၁၇၂/၀အထိ ၄၉မိုင်) ပြုပြင်ဖောက်လုပ်ခြင်း လုပ်ငန်းဆောင်ရွက်ရန်အတွက် ဆောက်လုပ်ရေးဝန်ကြီးဌာနမှတဆင့် အဆိုပြုချက်တင်ပြခြင်းကိစ္စ

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၀၇ခုနှစ် နိုဝင်ဘာလ (၂၀)ရက်နေ့စွဲပါစာအမှတ်၊ ရကာ - ၆(က) / မ-၉၉၁ / ၂၀၀၇ (၉၆၂၀-၇)

၁။ အကြောင်းအရာပါကိစ္စနှင့်စပ်လျဉ်း၍မန္တလေး-လားရှိုး-မူဆယ် ပြည်ထောင်စုလမ်းမကြီး၏ ကျောက်မဲ-လားရှိုးလမ်းအပိုင်းအား အေးရှားဝါး(လ်)ကုမ္ပဏီလီမိတက်မှ ပြုပြင်ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခကောက်ခံခြင်း လုပ်ငန်းဆောင်ရွက်နိုင်ရန် တင်ပြထားခြင်းအပေါ် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ကုန်သွယ်မှုမူဝါဒကောင်စီ၏ (၁၇/၂၀၀၇) အစည်းအဝေးသို့ တင်ပြခဲ့ပြီး အစည်းအဝေးဆုံးဖြတ်ချက်များအား ရည်ညွှန်းချက်ပါစာဖြင့် ပြန်ကြားလာခဲ့ပါသည်။

၂။ အဆိုပါအစည်းအဝေးဆုံးဖြတ်ချက်များအနက် စာပိုဒ်(၂) စာပိုဒ်ခွဲ(င)ပါ ဆုံးဖြတ်ချက်အရ အစိုးရအဖွဲ့သို့ ဆက်လက်တင်ပြရန်အတွက် တောင်းခံထားသော ဆောက်လုပ်ရေးဝန်ကြီးဌာန၏ ၂၀၀၇ခုနှစ် အောက်တိုဘာလ (၂၂)ရက်နေ့စွဲပါစာအမှတ်၊ ၁/ခွဲ-၂/ထွေ/၂၀၀၇(ကုမ္ပဏီ)(စီ၅၇၂၄) တင်ပြစာမိတ္တူ (၁၃)စုံနှင့် Adobe Acrobat Reader (Pdf) File ဖြင့် ထည့်သွင်းထားသော CD Copy (၁)ချပ်တို့အား ပြုစု၍ ပြန်လည်ပူးတွဲပေးပို့အပ်ပါသည်။

ဝန်ကြီး(ကိုယ်စား)
(ကျော်ဝင်း၊ ရုံးအဖွဲ့မှူး)

မိတ္တူ
၂၉/၁၁



# ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
# ဆောက်လုပ်ရေးဝန်ကြီးဌာန

စာအမှတ်၊ ၁/ခွဲ-၂/ထွေ/၂၀၀၇(ကုမ္ပဏီ)(စီ ၅၇၂၄)
ရက် စွဲ၊ ၂၀၀၇ခုနှစ် အောက်တိုဘာလ ၂၂ ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ အေးရှားဝါး(လ်)ကုမ္ပဏီလီမိတက်မှ ကျောက်မဲ - လားရှိုးလမ်းအပိုင်း (မိုင်တိုင် ၁၂၃/၀မှ ၁၇၂/၀အထိ ၄၉မိုင်) ပြုပြင်ဖောက်လုပ်ခြင်းလုပ်ငန်းဆောင်ရွက်ရန်အတွက် ဆောက်လုပ်ရေးဝန်ကြီးဌာနမှတဆင့် အဆိုပြုချက်တင်ပြခြင်းကိစ္စ

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏၂၀၀၇ခုနှစ်အောက်တိုဘာလ(၁၇)ရက် နေ့စွဲပါစာအမှတ်၊ ရက - ၆(က) / မ-၉၉၁ / ၂၀၀၇ (၈၃၅၂-က)

အေးရှားဝါး(လ်)ကုမ္ပဏီလီမိတက်မှ မန္တလေး-လားရှိုး-မူဆယ် ပြည်ထောင်စုလမ်းမကြီး၏ ကျောက်မဲ-လားရှိုးလမ်းအပိုင်းအား ပြုပြင်ဖောက်လုပ်၍ လမ်း၊တံတား အသုံးပြုခကောက်ခံခြင်း လုပ်ငန်းဆောင်ရွက်နိုင်ရန် ရည်ညွှန်းချက်ပါစာဖြင့် ပေးပို့ထားသည့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၃၇/၂၀၀၇) အစည်းအဝေး ဆုံးဖြတ်ချက်အရ ဒိုင်းမွန်းပဲလေ့(စ်)ကုမ္ပဏီမှ အေးရှားဝါး(လ်)ကုမ္ပဏီသို့ လုပ်ငန်းလွှဲပြောင်းပေးသည့် အထောက်အထားများ ပူးတွဲလျက် ကုန်သွယ်မှုမူဝါဒကောင်စီသို့ ဆက်လက်တင်ပြနိုင်ရန် အမှာစာ (၂၅)စုံကို ပေးပို့အပ်ပါသည် ။

22.10.07

ဝန်ကြီး(ကိုယ်စား)
(ကျော်ဝင်း၊ ရုံးအဖွဲ့မှူး)



# ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
# ဆောက်လုပ်ရေးဝန်ကြီးဌာန

စာအမှတ်၊ ၁/ခွဲ-၂/ထွေ/၂၀၀၇(ကုမ္ပဏီ)(စီ ၄၈၄၁)
ရက် စွဲ၊ ၂၀၀၇ခုနှစ် စက်တင်ဘာလ ၆ ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **အေးရှားဝါး(လ်)ကုမ္ပဏီလီမိတက်မှ ကျောက်မဲ - လားရှိုးလမ်းအပိုင်း (မိုင်တိုင် ၁၂၃/၀မှ ၁၇၂/၀အထိ ၄၉ မိုင်) ပြုပြင်ဖောက်လုပ်ခြင်းလုပ်ငန်းဆောင်ရွက်ရန် အတွက် ဆောက်လုပ်ရေးဝန်ကြီးဌာနမှတဆင့် အဆိုပြုချက်တင်ပြခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၀၇ခုနှစ် ဇွန်လ (၂၇)ရက် နေ့စွဲပါ စာအမှတ်၊ ရက - ၆(က) / မ-၉၉၁ / ၂၀၀၇ (၃၀၀၄)

၁။ အေးရှားဝါး(လ်)ကုမ္ပဏီလီမိတက်မှ မန္တလေး - ပြင်ဦးလွင် - နောင်ချို - လားရှိုး - မူဆယ် ပြည်ထောင်စုလမ်းမကြီး၏ကျောက်မဲ-လားရှိုးလမ်းအပိုင်း(မိုင်တိုင် ၁၂၃/၀မှ ၁၇၂/၀အထိ ၄၉ မိုင်) ကိုပြုပြင်ဖောက်လုပ် လုပ်ငန်း ဆောင်ရွက်ရန်အတွက် အဆိုပြုလွှာကို ဆောက်လုပ်ရေးဝန်ကြီးဌာန မှတစ်ဆင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြခဲ့ရာ ရည်ညွှန်းချက်ပါစာဖြင့် အေးရှားဝါး(လ်) ကုမ္ပဏီ၏ အဆိုပြုချက်နှင့်ပတ်သက်၍ ပြန်လည်ရှင်းလင်းဖြေကြားအပ်ပါသည် -

(က) လုပ်ငန်းလုပ်ကိုင်ရေး ပဋိညာဉ်စာချုပ်၏ လုပ်ငန်း သက်တမ်းကာလ နှစ် (၃၀) ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်းမှ အေးရှားဝါး(လ်)ကုမ္ပဏီသို့ Toll ကောက်ခံခြင်း လုပ်ငန်းကို ၂၀၀၆ခုနှစ် ဇူလိုင်လ (၂၆)ရက်နေ့ နံနက် (၆)နာရီမှ စတင်လွှဲပြောင်း ပေးခဲ့ပြီး အေးရှားဝါး(လ်)ကုမ္ပဏီမှလည်း ယင်းနေ့မှစ၍ Toll စတင်ကောက်ခံခဲ့ သဖြင့် ၂၀၀၆ခုနှစ် ဇူလိုင်လ (၂၆)ရက်နေ့ကို စာချုပ်သက်တမ်း စတင်သည့်နေ့ အဖြစ် သတ်မှတ်ပေးစေလိုပါသည် ။

(ခ) ဗိုင်းမွန်းပဲလေစ့်ကုမ္ပဏီမှ အေးရှားဝါး(လ်)ကုမ္ပဏီသို့ လုပ်ငန်းများ လွှဲပြောင်း ပေးစဉ်က ကုမ္ပဏီမှ လမ်းများပြုပြင်ထိန်းသိမ်းရန် လိုအပ်ခြင်း၊ အဓိကတံတားကြီး (၂)စင်းဖြစ်သည့် သီပေါတံတားနှင့် စဥ့်အင်တံတားတို့ကို တည်ဆောက်ရန် လိုအပ် နေခြင်းကြောင့် တည်ဆောက်မှုကာလကို (၃၆)လအဖြစ် တောင်းခံခြင်းဖြစ်ပါသည်။ သို့ရာတွင် ယင်းတည်ဆောက်မှုကာလက (၃၆)လသည် အေးရှားဝါး(လ်)ကုမ္ပဏီသို့ လုပ်ကိုင်ခွင့်ပြုသည့် နှစ် (၃၀)ကာလ အတွင်းတွင် အပါအဝင် ဖြစ်ပါမည်။ အေးရှားဝါး(လ်)ကုမ္ပဏီသည် Toll Gate စတင်လက်ခံရရှိသည့်နေ့မှ စတင်၍ Toll ကောက်ခံပြီး ယင်းကောက်ခံရရှိငွေ၏ ၁၀%အား နိုင်ငံတော်သို့ ပေးသွင်းနေပြီ ဖြစ်ပါသည်။ ယင်းပေးသွင်းပြီးငွေအား နိုင်ငံတော်မှ အေးရှားဝါး(လ်)ကုမ္ပဏီသို့ ပြန်လည်ပေးရန် မလိုအပ်ပါ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ လုပ်ငန်း လုပ်ကိုင် ခွင့်ပြုသည့်နေ့မှစတင်၍ တည်ဆောက်မှုကာလ (၃၆)လနှင့် အခွန် ကင်းလွတ်ခွင့် (၃၆)လကိုပါ စတင်ရေတွက်ပြီး ခွင့်ပြုပေးရန်ဖြစ်ကြောင်း ပြန်လည် ရှင်းလင်း ဖြေကြားအပ်ပါသည် ။

၂။ အဆိုပါကိစ္စနှင့်ပတ်သက်၍ အထက်အပိုဒ် (၁) တွင် ပြန်လည်ရှင်းလင်း ဖြေကြားပြီး ဖြစ်သည့်အတိုင်း အေးရှားဝါး(လ်)ကုမ္ပဏီလီမိတက်မှ မန္တလေး - လားရှိုး - မူဆယ် ပြည်ထောင်စု လမ်းမကြီး၏ ကျောက်မဲ - လားရှိုး (မိုင်တိုင် ၁၂၃/၀ မှ ၁၇၂/၀ ထိ) (၄၉)မိုင် လမ်းအပိုင်းကို ပြုပြင်ဖောက်လုပ် လုပ်ငန်း လုပ်ကိုင်ခွင့်ရရှိရေး အဆိုပြုတင်ပြချက်ကို လိုအပ်သလို ဆက်လက် ဆောင်ရွက်နိုင်ပါရန် ပူးတွဲပေးပို့အပ်ပါသည်။

6/9/08

ဝန်ကြီး(ကိုယ်စား)
(ကျော်ဝင်း၊ ရုံးအဖွဲ့မှူး)

၆.၉.၀၇

D/Khwe-2 / BC / BC 2 / P.g 82



ASIA WORLD COMPANY LIMITED

NO.(61-62), BAHOSI DEVELOPMENT, WADAN STREET, LANMADAW TOWNSHIP, YANGON, MYANMAR.
TEL : 225271, 220074, 225982, 225184, 222422, FAX:(95-1) 227474, 227553, E-Mail:awc@mptmail.net.mm.

စာအမှတ်။ AWC / Road - 360 / 2007
ရက်စွဲ ။ ၂၀ - ၀၇ - ၂၀၀၇

သို့
ဝန်ကြီး
ဆောက်လုပ်ရေးဝန်ကြီးဌာန

အကြောင်းအရာ။ မန္တလေး-လားရှိုး-မူဆယ် ပြည်ထောင်စု လမ်းကြီးတွင် မိုင်တိုင် ၁၂၃/၀ မှ ၁၇၂/၀ ထိ(၄၉)မိုင် လမ်းအပိုင်းအား ပြုပြင် ဖေါက်လုပ် လုပ်ငန်း လုပ်ကိုင် ခွင့် အဆိုပြုချက်နှင့်ပတ်သက်၍ ရှင်းလင်း တင်ပြချက်။

ရည်ညွှန်းချက်။
(၁) နိုင်ငံတော်အေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေးကောင်စီ၏ ၇-၄-၂၀၀၆ ရက်စွဲပါ စာအမှတ်-၄၂၄ /၃(ဂ)-၂/နယက
(၂) ဆောက်လုပ်ရေးဝန်ကြီးဌာန၏ ၂၀-၄-၂၀၀၀၆ ရက်စွဲပါ စာအမှတ် ၁/ခွဲ-၂ ထွေ /၂၀၀၆ (စီ-၁၄၉၈)
(၃) ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း၏ ၁၆-၅-၂၀၀၆ ရက်စွဲပါ စာအမှတ် လစမ/ရှမ်းမြောက် /ဒိုင်မွန်းပဲလေ့စ် /၁၃၉
(၄) အေးရှာဝါး(လ်)ကုမ္ပဏီ၏၃၀-၅-၂၀၀၆ရက်စွဲပါစာအမှတ်AWC / 216/2006
(၅) ဆောက်လုပ်ရေးဝန်ကြီးဌာန၏ ၂၂-၅-၂၀၀၇ ရက်စွဲပါ စာအမှတ် ၁ / ခွဲ-၂ / ထွေ / ၂၀၀၇ကုမ္ပဏီ ( စီ ၆၉၇ )
(၆) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၇-၆-၀၇ ရက်စွဲပါစာအမှတ် ရက-၆(က)/မ-၉၉၁/၂၀၀၇ (၃၀၀၄)

၁။ ကျွန်တော်များ Asia World Co.,Ltd သည် မန္တလေး-ပြင်ဦးလွင်-နောင်ချို-လားရှိုး-မူဆယ် ပြည်ထောင်စုလမ်းမကြီး၏ (မိုင်တိုင်-၁၂၃/၀ မှ ၁၇၂/၀ထိ)(၄၉-မိုင်)ကျောက်မဲ-လားရှိုးလမ်းအပိုင်းကို ရည်ညွှန်းချက် (၁)(၂)နှင့်(၃)ပါ လမ်းညွှန်ချက်များအရ ဒိုင်းမွန်းပဲလေ့(စ်)ကုမ္ပဏီလီမိတက် ထံမှ (၃၁-၇-၂၀၀၆) ရက်နေ့တွင် လွှဲပြောင်းပေးအပ်ခြင်း အစီရင်ခံစာပါအတိုင်း လွှဲပြောင်း လက်ခံခဲ့ပါသည်။

၂။ အဆိုပါ လမ်းအပိုင်းကို ပြုပြင်ဖေါက်လုပ်၍ လမ်းအသုံးပြုခ ကောက်ခံသည့် လုပ်ငန်းကို ဌာနနှင့် ပဋိညာဉ်စာချုပ် ချုပ်ဆို၍ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်လုပ်ထုံးလုပ်နည်းများနှင့်အညီ ခွင့်ပြုမိန့်ဖြင့် လုပ်ငန်းဆောင်ရွက်နိုင်ရန် ရည်ညွှန်းချက်(၄)ဖြင့် ကုမ္ပဏီမှ အဆိုပြု တင်ပြခဲ့ပြီး၊ ဝန်ကြီးဌာနမှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ ရည်ညွှန်းချက်(၅)ဖြင့် ဆက်လက် တင်ပြထားခဲ့ပြီး ဖြစ်ပါသည်။



# ASIA WORLD COMPANY LIMITED

NO.(61-62), BAHOSI DEVELOPMENT, WADAN STREET, LANMADAW TOWNSHIP, YANGON, MYANMAR.
TEL : 225271, 220074, 225982, 225184, 222422, FAX:(95-1) 227474, 227553, E-Mail:awc@mptmail.net.mm

၃။ အဆိုပြုတင်ပြချက်နှင့် ပက်သက်၍ ပဋိညာဉ်စာချုပ်၏ လုပ်ငန်းကာလ နှစ်(၃၀)တွင် စာချုပ်သက်တမ်း စတင်သည့်နေ့ကို သတ်မှတ်ဖော်ပြပေးရန်နှင့် တည်ဆောက်ရေး ကာလ(၃၆)လ တင်ပြထားခြင်းအား ပြန်လည် ရှင်းလင်းပေးရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်းချက်(၆)ဖြင့် အကြောင်းကြား လာခဲ့ပါသည်။

၄။ ရည်ညွှန်းချက်(၁)ပါ လမ်းညွှန်ချက်နှင့်အညီ ရည်ညွှန်းချက်(၂)နှင့်(၃) တို့အရ ကျွန်တော်များ ကုမ္ပဏီအနေဖြင့် အဆိုပြုလမ်းအပိုင်းကို လွှဲပြောင်း လက်ခံခဲ့ပြီးဖြစ်ပြီး၊ ယခင် လုပ်ငန်းလုပ်ကိုင် ခွင့်ရသူ ကုမ္ပဏီ၏ ဆောင်ရွက်ခဲ့ပြီးသည့် အကျိုးခံစားခွင့်များ (လုပ်ငန်းဆောင်ရွက်သည့် ကာလ အတွင်း လမ်းအသုံးပြုခ ကောက်ခံရရှိသည့် ဝင်ငွေများ၊ အခွန် ကင်းလွတ်ခွင့်/သက်သာခွင့်များ၊ ပဋိညာဉ်စာချုပ်၊ လမ်းအပိုင်းနှင့် ဆက်စပ်သည့် စက်ယာဉ်ယန္တရားများ၊ ပစ္စည်းများ၊ အဆောက်အဦ များ စသည်) ကို ကျွန်တော်များ ကုမ္ပဏီအနေဖြင့် လွှဲပြောင်း လက်ခံရယူ ခဲ့ခြင်း မရှိပါ။ ယခင် လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ ကုမ္ပဏီနှင့် ကျွန်တော်များကုမ္ပဏီ တို့သည် သီးခြား ကုမ္ပဏီ တစ်ခုစီ ဖြစ်ကြပါသည်။ ယခင်လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ ကုမ္ပဏီ၏ လုပ်ငန်းလုပ်ကိုင်ခွင့် (MIC) ခွင့်ပြုမိန့် နှင့် ပဋိညာဉ်စာချုပ်တို့မှာလည်း ပယ်ဖျက်ထားပြီး ဖြစ်ပါသည်။

၅။ သို့ပါ၍ အဆိုပြုလမ်းကို ကျွန်တော်များကုမ္ပဏီ၏ လုပ်ငန်းသစ် တစ်ခုအနေဖြင့် ရှေ့နေချုပ် ရုံး၏ သဘောထား မှတ်ချက်နှင့်အညီ ပြင်ဆင်ထားသည့် ပုံစံနှင့် ချုပ်ဆိုမည့် ပဋိညာဉ် စာချုပ်ဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်ကို လျှောက်ထားပြီး၊ လုပ်ငန်း ဆောင်ရွက်ရန် အဆိုပြုတင်ပြခဲ့ခြင်း ဖြစ်ပါသည်။

၆။ အဆိုပါ လမ်းအပိုင်းကို မိမိတို့ကုမ္ပဏီမှ လွှဲပြောင်းလက်ခံချိန်တွင် ၎င်းလမ်းအပိုင်း၏ လမ်း- တံတား အနေအထားမှာ မန္တလေး-ပြင်ဦးလွင်-နောင်ချို လမ်းမကြီးအပိုင်းကဲ့သို့ လမ်းနှင့် တံတား များ ပြုပြင်ဖေါက်လုပ် တည်ဆောက်ခြင်း စသည့်လုပ်ငန်းများ ဆောင်ရွက်ပြီးစီးခြင်း မရှိသည်ကို တွေ့ရှိရပါသည်။ သို့အတွက် လမ်းအပိုင်း လွှဲပြောင်းလက်ခံ ရယူပြီးနောက် ကုမ္ပဏီအနေဖြင့် လမ်းအပိုင်းကို ပြုပြင်ဖေါက်လုပ်ခြင်း၊ တံတားနှင့် ရေမြောင်းများ ပြုပြင် တည်ဆောက်ခြင်း လုပ်ငန်း များကို အဆိုပြုချက်တွင် ဖေါ်ပြပါအတိုင်း ငွေကြေးအမြောက်အမြား သုံးစွဲ၍ ရင်းနှီးမြှုပ်နှံ ဆောင်ရွက်ရမည် ဖြစ်ပါသည်။ သို့ပါ၍ လမ်းအပိုင်း၏ တည်ဆောက်ရေးကာလကို ခွင့်ပြုမိန့်ရပြီး (၃၆)လ အဖြစ် တင်ပြလျှောက်ထားခဲ့ခြင်း ဖြစ်ပါသည်။

၇။ အဆိုပြုလမ်းအပိုင်းတွင် တည်ဆောက်ရမည့် ပေ-၁၉၀ ရှိ စဉ့်အင် တံတားအတွက် ငွေ ကျပ်သိန်း (၃၀၀၀)ခန့်နှင့် USD-210,000.00 ကိုလည်းကောင်း၊(ပေ-၅၆၀)ရှိ သီပေါ တံတားအတွက် ငွေကျပ် သိန်းပေါင်း (၆၆၀၀)ကျော်နှင့် USD-630,000/-ကျော် ကိုလည်းကောင်း၊စုစုပေါင်း ငွေကျပ် သိန်းပေါင်း (၉၆၀၀)ကျော်နှင့် USD-840,000/- ကျော်ကို သုံးစွဲ၍ တည်ဆောက်ရမည် ဖြစ်ပါသည်။ အဆိုပြုလမ်းအပိုင်းတွင် လမ်း၊ တံတားနှင့် ရေမြောင်းများ ပြုပြင်တည်ဆောက်မှုတွင် ပူးတွဲဇယားပါ အတိုင်း ငွေကျပ်သိန်းပေါင်း (၇၂၂၂. ၇၇၈)နှင့် USD-156,233.43 ကို သုံးစွဲခဲ့ရပြီး ဖြစ်ပါသည်။



# ASIA WORLD COMPANY LIMITED

NO.(61-62), BAHOSI DEVELOPMENT, WADAN STREET, LANMADAW TOWNSHIP, YANGON, MYANMAR.
TEL : 225271, 220074, 225982, 225184, 222422, FAX:(95-1) 227474, 227553, E-Mail:awc@mptmail.net.mm.

၈။ ထို့အပြင် လမ်းအပိုင်း လွှဲပြောင်းစဉ်က လွှဲပြောင်းပေးသည့်ကုမ္ပဏီ၏ ရှင်းလင်းရန် ရှိသည့် ကြွေးမြီများကို ပေးချေ ရှင်လင်းနိုင်ရေးအတွက် ငွေကျပ် သိန်းပေါင်း(၁၈၀၀၀)အနက်မှ ကျပ်သိန်းပေါင်း(၁၃,၅၀၅. ၇၀)ကို ကျွန်တော်များကုမ္ပဏီမှ အဆိုပါကုမ္ပဏီသို့ နှစ်ဦးသဘောတူ ပေးချေခဲ့ပြီး ဖြစ်ပါသည်။

၉။ အဆိုပြုလမ်းအပိုင်း ပြုပြင်ဖေါက်လုပ် တည်ဆောက်မှုတွင် လိုအပ်မည့် ကတ္တရာများနှင့် တံတားအတွက် သံမဏိသံဘောင်များကို ကုမ္ပဏီ၏ နိုင်ငံခြားငွေများဖြင့် ပြည်ပမှ ဝယ်ယူတင်သွင်း အသုံးပြုရမည် ဖြစ်ပါသည်။

၁၀။ အဆိုပြု လမ်းအပိုင်းအတွက် ချုပ်ဆိုမည့် ပဋိညာဉ်စာချုပ်(မူကြမ်း)တွင် လမ်းလုပ်ငန်းနှင့် သက်ဆိုင်သည့် စကားလုံးများ၏ အနက်အဓိပ္ပါယ် ဖွင့်ဆိုချက်များ၊ လမ်းနှင့်တံတားများ ဖေါက်လုပ် တည်ဆောက်ရာတွင် လိုက်နာရမည် သတ်မှတ်ချက် လုပ်ငန်းအဆင့်ဆင့်နှင့် စံချိန် စံညွှန်းများ။ လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ(ကုမ္ပဏီ)နှင့် လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ(ဌာန) တို့၏ တာဝန်များနှင့် လမ်းအသုံးပြုခ ကောက်ခံရငွေအပေါ် ပေးသွင်းရမည် နှုန်းထား သတ်မှတ်ချက်များကို အသေးစိတ် ရှင်းလင်း ဖေါ်ပြပါရှိပြီး၊ နည်းပညာဆိုင်ရာ စံညွှန်းသတ်မှတ်ချက်များ၊ တံတားနှင့် ရေမြှုပ် စာရင်းများကို စာချုပ် နောက်ဆက်တွဲများအဖြစ် ပြည့်စုံစွာ ဖေါ်ပြထား ပါသည်။

၁၁။ သို့ဖြစ်ပါ၍ အထက်တွင် ရှင်းလင်းတင်ပြချက်များအတိုင်း ကုမ္ပဏီ၏ လုပ်ငန်းသစ် တစ်ခုအဖြစ် ငွေကြေးအမြောက်အမြား ရင်းနှီးမြှုပ်နှံ ရမည်ဖြစ်ခြင်း၊ တည်ဆောက်ရေး လုပ်ငန်းများ ကျန်ရှိနေခြင်း၊ ရင်းနှီးမြှုပ်နှံမှုတွင် RECOUPMENT PERIOD (၁၈-နှစ်၊၉-လ) , INTERNAL RATE OF RETURN (၄. ၅၅%) စသည့် တင်ပြပါ အခြေအနေများကို ထောက်ရှု၍ ယခင်ချုပ်ဆိုခဲ့ပြီးသည့် လမ်းအပိုင်း ပဋိညာဉ်စာချုပ်များ နည်းတူ ယခုအဆိုပြု လုပ်ငန်းအတွက် ချုပ်ဆိုမည် ပဋိညာဉ်စာချုပ်(မူကြမ်း)ပါအတိုင်း လုပ်ငန်းဆောင်ရွက် ခွင့်ပြုပါရန်နှင့် အောက်ဖေါ်ပြပါအတိုင်း သတ်မှတ် ဆောင်ရွက်ခွင့် ပြုပါရန် တင်ပြအပ်ပါသည်။

၁၂။ အဆိုပြုလမ်းအပိုင်း၏ လမ်းတံတားပြုပြင်ဖေါက်လုပ် တည်ဆောက်၍ လမ်း-တံတား အသုံးပြုခ ကောက်ခံသည့် လုပ်ငန်း၏ သက်တမ်းကာလကို ပဋိညာဉ်စာချုပ်(မူကြမ်း) အပိုဒ်၁(င)၊ ပါအတိုင်း နှစ်(၃၀) လုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် တင်ပြအပ်ပါသည်။

၁၃။ အဆိုပြုလမ်းအပိုင်း လွှဲပြောင်းပေးအပ်ခြင်းအစီရင်ခံစာပါ လမ်းလွှဲပြောင်း လက်ခံရရှိသည့် နေ့(၃၁-၇-၂၀၀၆)ရက်နေ့ကို ပဋိညာဉ်စာချုပ် သက်တမ်း စတင်သည့်နေ့အဖြစ် ပဋိညာဉ်စာချုပ် (မူကြမ်း)အပိုဒ် (၂၂-၂)ပါအတိုင်း ခွင့်ပြုပါရန် တင်ပြအပ်ပါသည်။ ထို့အတူ အဆိုပြု လမ်းအပိုင်း စီမံကိန်း လုပ်ငန်းစတင်သည့်နေ့နှင့် တည်ဆောက်ရေးကာလ (၃၆)လတို့နှင့် ပတ်သက်၍ ပဋိညာဉ်စာချုပ်(မူကြမ်း)အပိုဒ်(၁၀)တွင် ဖေါ်ပြပါရှိသည့်အတိုင်း လမ်းအပိုင်းလက်ခံသည့်နေ့(၃၁-၇-၂၀၀၆) ရက်နေ့မှ စတင်သည့်နေ့အဖြစ် သတ်မှတ်ခွင့်ပြုပါရန် တင်ပြအပ်ပါသည်။



ASIA WORLD COMPANY LIMITED

NO.(61-62), BAHOSI DEVELOPMENT, WADAN STREET, LANMADAW TOWNSHIP, YANGON, MYANMAR.
TEL : 225271, 220874, 225982, 225184, 222422, FAX:(95-1) 227474, 227553, E-Mail:awc@mptmail.net.mm.

၁၄။ အဆိုပြုလမ်းအပိုင်းတွင် လမ်းအပိုင်းလွှဲပြောင်းသည့် နေ့မှစ၍ ပဋိညာဉ်စာချုပ်(မူကြမ်း)ပါ လမ်းအသုံးပြုခ နှုန်းထားများနှင့်အညီ လမ်းအသုံးပြုခ ကောက်ခံလျှက်ရှိနေပြီး၊ လမ်းအသုံးပြုခ ရရှိသည့် ဝင်ငွေမှ ၁၀ ရာခိုင်နှုန်းကို ဌာနသို့ ပေးသွင်းလျှက် ရှိနေပြီး ဖြစ်ပါသည်။

၁၅။ လမ်းအသုံးပြုခ ကောက်ခံရရှိသည့် ဝင်ငွေအပေါ် ပဋိညာဉ်စာချုပ်(မူကြမ်း) အပိုဒ် ၁၂(ဒ) နှင့် အပိုဒ် ၁၂(ဓ)ပါအတိုင်း ဝင်ငွေအပေါ် ကင်းလွတ်ခွင့်အား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့် ရရှိသည့်နေ့ မှစတင်၍ (၃)နှစ်ကို ကင်းလွတ်ခွင့် ပြုပါရန်နှင့် ပဋိညာဉ်စာချုပ်(မူကြမ်း) အပိုဒ်-၁၃(စ)ပါ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေများ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ အခွန်ကင်းလွတ်ခွင့် သက်သာခွင့်များ ရရှိရေးအတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ ဆက်လက်လျှောက်ထားခွင့် ပြုပေးပါရန် တင်ပြအပ်ပါသည်။

၁၆။ သို့ဖြစ်ပါ၍ အဆိုပြုလမ်းအပိုင်းနှင့် ပတ်သက်၍ ကျွန်တော်များ ကုမ္ပဏီ၏ အထက်ပါ ရှင်းလင်း တင်ပြချက်များနှင့် ပြင်ဆင် သတ်မှတ်ချက်များကို ဝန်ကြီးဌာနမှ သဘောတူ ခွင့်ပြုပါက ပြင်ဆင်ပြီးသည့် ပဋိညာဉ်စာချုပ်(မူကြမ်း)ပါ အဆိုပြုတင်ပြချက်ကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ ခွင့်ပြုမိန့် ရရှိရေးအတွက် ဆက်လက် တင်ပြပေးနိုင်ပါရန် လေးစားစွာ အဆိုပြုတင်ပြအပ်ပါသည်။

လေး စား စွာ ဖြင့်

HTUN MYINT NAING
MANAGING DIRECTOR
ASIA WORLD CO., LTD

မိတ္တူကို-

(၁) ဒုတိယဝန်ကြီး၊ ဆောက်လုပ်ရေးဝန်ကြီးဌာန၊
(၂) ဦးဆောင်ညွှန်ကြားရေးမှူး၊ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း၊

လျှို့ဝှက်



မန္တလေး-ပြင်ဦးလွင်-နောင်ချို-လားရှိုး-မူဆယ် ပြည်ထောင်စုလမ်းမကြီး၏

(မိုင်တိုင်-၁၂၃/၀ မှ ၁၇၂/၀ထိ)(၄၉-မိုင်)လမ်းအပိုင်း

(က)။ လမ်းလွှဲပြောင်းလက်ခံရရှိသည့်နေမှ ၃၁-၇-၂၀၀၇ ထိ စီမံကိန်းလုပ်ငန်းတွင် သုံးစွဲပြီးငွေ

| စဉ် | အကြောင်းအရာ | ကုန်ကျငွေ | |
|---|---|---|---|
| | | ( ကျပ်) | (USD) |
| ၁။ | လမ်းပြုပြင်ထိန်းသိမ်းခြင်းလုပ်ငန်း | 368,846,746.65 | |
| ၂။ | တံတားပြုပြင်ထိန်းသိမ်းခြင်းလုပ်ငန်း | 27,453,433.10 | |
| ၃။ | ရေမြောင်းပြုပြင်ထိန်းသိမ်းခြင်း | 8,017,089.00 | |
| ၄။ | စဉ့်အင်တံတား Modular Truss Bridge တည်ဆောက်ခြင်း | 318,461,003.90 | 156,233.43 |
| | စုစုပေါင်းကုန်ကျငွေ | **722,778,272.65** | **156,233.43** |

(ခ)။ လမ်းလွှဲပြောင်းသည့်ကုမ္ပဏီအား ပေးချေငွေ

| | | ကျပ် (သိန်းပေါင်း) |
|---|---|---|
| ၁။ | လွှဲပြောင်းပေးသည့်အဆောက်အဦး၊စက်ပစ္စည်း၊ပရိဘောဂ | 141.72 |
| ၂။ | ၉-၁-၂၀၀၇ ပေးငွေ | 2,600.00 |
| ၃။ | ၂၅-၁-၂၀၀၇ ပေးငွေ ( မြန်မာ့စီးပွားရေးဘဏ်၏ချေးငွေ) | 5,364.00 |
| ၄။ | ၇-၂-၂၀၀၇ ပေးငွေ | 500.00 |
| ၅။ | ၇-၃-၂၀၀၇ ပေးငွေ | 250.00 |
| ၆။ | ၉-၃-၂၀၀၇ ပေးငွေ | 250.00 |
| ၇။ | ၁၉-၃-၂၀၀၇ ပေးငွေ | 1,300.00 |
| ၈။ | ၂၀-၃-၂၀၀၇ ပေးငွေ | 1,100.00 |
| ၉။ | ၂-၄-၂၀၀၇ ပေးငွေ | 2,000.00 |
| | ပေးချေပြီးငွေ စုစုပေါင်း | **13,505.72** |

လျှို့ဝှက်



# ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
# ဆောက်လုပ်ရေးဝန်ကြီးဌာန

စာအမှတ်၊ ၁/ခွဲ-၂/ထွေ/၂၀၀၇(ကုမ္ပဏီ)(စီ ၆၉၇)
ရက် စွဲ၊ ၂၀၀၇ ခုနှစ် မေလ ၂၂ ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ အေးရှားဝါး(လ်)ကုမ္ပဏီလီမိတက်မှ ကျောက်မဲ-လားရှိုး မိုင်တိုင် (၁၂၃/၀ မှ ၁၇၂/၀ထိ) (၄၉)မိုင် လမ်းအပိုင်းကို ပြုပြင်ဖောက်လုပ် လုပ်ငန်းဆောင်ရွက်ရန် အဆိုပြုတင်ပြခြင်းကိစ္စ

ရည် ညွှန်း ချက် ။ နိုင်ငံတော်အေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေးကောင်စီရုံး၏၂၀၀၆ခုနှစ် ဧပြီလ (၇)ရက်နေ့စွဲပါစာအမှတ်၊ ၄၂၄/၃ (ဂ)-၂/နယက

၁။ မန္တလေး-လားရှိုးပြည်ထောင်စုလမ်းမကြီး၏မိုင်တိုင်(၁၂၃/၀မှ ၁၇၂/၀ထိ) လမ်းလုပ်ငန်းအပိုင်းအား အေးရှားဝါး(လ်)ကုမ္ပဏီလီမိတက်သို့ ဒိုင်းမွန်းပဲလေ့စ်ကုမ္ပဏီလီမိတက်မှ လွှဲပြောင်းပေးရေးကိုရည်ညွှန်းပါစာဖြင့်နိုင်ငံတော်အေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေးကောင်စီရုံးမှ အကြောင်းကြားပြီးဖြစ်ပါသည် ။

၂။ အဆိုပါကိစ္စနှင့်ပတ်သက်၍ ရှေ့နေချုပ်ရုံးမှ ပြန်လည်ပြင်ဆင်ဖြည့်စွက်ခိုင်းသည်များကို ပြန်လည်ပြင်ဆင်ဖြည့်စွက်ထားသည့် ပဋိညာဉ်စာချုပ်(မူကြမ်း)အား ပူးတွဲထားသည့် အဆိုပြုလွှာ (၁၅)စုံကို လိုအပ်သလို ဆက်လက်ဆောင်ရွက်နိုင်ပါရန် ပေးပို့အပ်ပါသည် ။

(ဗိုလ်ချုပ်စောထွန်း)
ဝန်ကြီး

၂၂.၅.၀၇

Gos 2007 /K-2 BC M-2 P.g 156



ပြည်ထောင်စုမြန်မာနိုင်ငံတော်

နိုင်ငံတော်အေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေးကောင်စီရုံး

စာအမှတ်၊ ၄၂၄/၃(၈) - ၂ / နယက

ရက်စွဲ၊ ၂၀၀၆ ခုနှစ်၊ ဧပြီလ ၇ ရက်

သို့

ဝန်ကြီး

ဆောက်လုပ်ရေးဝန်ကြီးဌာန

အကြောင်းအရာ။ ဒိုင်းမွန်းပဲလေ့စ်ကုမ္ပဏီမှ ဆောင်ရွက်လျက်ရှိသောလမ်းလုပ်ငန်းကို လွှဲပြောင်းပေးရေးကိစ္စ

ရည်ညွှန်းချက်။ (၁) ကာကွယ်ရေးဦးစီးချုပ်ရုံး (ကြည်း) အမှတ် (၂) စစ်ဆင်ရေးအထူးအဖွဲ့မှူးရုံး၏ ၈-၂-၂၀၀၆ ရက်စွဲပါစာအမှတ်၊ ၁၀၁၈/ကစထ-၂/ဦး ၁

(၂) ဆောက်လုပ်ရေးဝန်ကြီးဌာန၏ ၂၀-၃-၂၀၀၆ ရက်စွဲပါစာအမှတ်၊ ၁/ ခွဲ-၂/ထွေ/ ၂၀၀၆ (၇၈) (စီ ၁၄)

မန္တလေး-လားရှိုး ပြည်ထောင်စုလမ်းမကြီး၏ မိုင်တိုင် (၁၂၃/၀) မှ (၁၇၂/၀) ထိ ဒိုင်းမွန်းပဲလေ့စ်ကုမ္ပဏီအားလုပ်ငန်းလုပ်ကိုင်ခွင့်ပြုထားသော လမ်းလုပ်ငန်းအပိုင်းကို အေးရှားဝေါ်လ်ကုမ္ပဏီသို့ လွှဲပြောင်းဆောင်ရွက်ခွင့်ပြုရေးအတွက် လုပ်ထုံးလုပ်နည်းများနှင့်အညီ ဆက်လက်ဆောင်ရွက်ရန် အကြောင်းကြားပါသည်။

အတွင်းရေးမှူး

မိတ္တူကို

ကာကွယ်ရေးဦးစီးချုပ်ရုံး (ကြည်း) အမှတ် (၂) စစ်ဆင်ရေးအထူးအဖွဲ့မှူးရုံး

အရှေ့မြောက်တိုင်းစစ်ဌာနချုပ်



**ASIA WORLD COMPANY LIMITED**

NO.(61-62), BAHOSI DEVELOPMENT, WADAN STREET, LANMADAW TOWNSHIP, YANGON, MYANMAR.
TEL.: 225271, 220074, 225982, 225184, 222422, FAX:(95-1) 227474, 227553, E-Mail:awc@mptmail.net.mm

စာအမှတ်။ AWC / 009 /07
ရက်စွဲ ။ ၉ - ၀၁ - ၂၀၀၇

သို့

ဝန်ကြီး
ဆောက်လုပ်ရေးဝန်ကြီးဌာန

အကြောင်းအရာ။ ။ **ကျောက်မဲ-လားရှိုး (မိုင်တိုင် ၁၂၃/၀ မှ ၁၇၂/၀ ထိ) လမ်းအပိုင်း အဆိုပြု တင်ပြထားချက်။**

ရည်ညွှန်းချက် ။ (၁) ဆောက်လုပ်ရေးဝန်ကြီးဌာန၏ ၁၄-၇-၂၀၀၆ ရက်စွဲပါစာအမှတ်- ၁/ခွဲ-၂/ထွေ/၂၀၀၆ (စီ ၂၈၃၁)
(၂) ကုမ္ပဏီ၏ ၂-၁၀-၂၀၀၆ ရက်စွဲပါအဆိုပြုချက် AWC/ROAD- 504/2006
(၃) ၅-၁-၂၀၀၇ရက်စွဲပါ အစည်းအဝေးဆုံးဖြတ်ချက်နှင့် ကုမ္ပဏီ နှစ်ဖက်သဘောတူညီချက်၊

၁။ ကျွန်တော်များ Asia World Co.,Ltd သည် ကျောက်မဲ-လားရှိုး (မိုင်တိုင် ၁၂၃/၀ မှ ၁၇၂/၀ ထိ) လမ်းအပိုင်းကို ရည်ညွှန်းချက်(၁)ပါအရ လွှဲပြောင်းပြီး၊ ပြုပြင်ဖေါက်လုပ် လုပ်ငန်းကိုင်ရန် ရည်ညွှန်းချက်(၂)ပါ အဆိုပြုလွှာကို တင်ပြခဲ့ပါသည်။

၂။ အဆိုပါ အဆိုပြုချက်တွင် လမ်းအပိုင်း ပြန်လည်ပြုပြင်ခြင်းနှင့် ဆောင်ရွက်ရန်ကျန်ရှိသည့် စီမံကိန်းလုပ်ငန်းများတို့အတွက် ရင်းနှီးကုန်ကျငွေအဖြစ် ကျပ်သန်း ၄၉၅၉ နှင့် အမေရိကန်ဒေါ်လာသန်း ၁.၅၉ ကို အဆိုပြု တင်ပြထားခဲ့ပါသည်။

၃။ အဆိုပြုလမ်းအပိုင်းကို ဒိုင်းမွန်းပဲလေ့စ်ကုမ္ပဏီလီမိတက်မှ လုပ်ငန်းဆောင်ရွက်စဥ် စီမံကိန်း ကုန်ကျငွေများအတွက် ရည်ညွှန်းချက်(၃) သဘောတူညီချက်နှင့်အညီ ကုမ္ပဏီမှ ဒိုင်းမွန်းပဲလေ့စ်ကုမ္ပဏီသို့ ကျပ်သိန်း (၁၈,၀၀၀)ကိုင်း၊ လွှဲပြောင်း လက်ခံယူထားသည့် အဆောက်အဦးစက်ပစ္စည်းနှင့် ပရိဘောဂ တို့အတွက် ကျပ် သိန်း (၁၄၁.၇၂ )ကိုင်း၊ စဥ်အင်တံတား သံဘောင်အတွက် USD- 156,233.43 ကိုင်း၊ ပေးချေရသည်ဖြစ်ပါ၍ အဆိုပါငွေများမှာ အဆိုပြုလမ်းစီမံကိန်း၏ ကုန်ကျစာရိတ်များ ဖြစ်ပါသည်အတွက် ရင်းနှီးမြှုပ်နှံမှုပမာဏတွင် ထည့်သွင်းရမည် ဖြစ်ပါသည်။



ASIA WORLD COMPANY LIMITED

NO.(61-62), BAHOSI DEVELOPMENT, WADAN STREET, LANMADAW TOWNSHIP, YANGON, MYANMAR.
TEL : 225271, 220074, 225982, 225184, 222422, FAX:(95-1) 227474, 227553, E-Mail:awc@mptmail.net.mm.

၄။ သို့ဖြစ်ပါ၍ အဆိုပြု လမ်းအပိုင်းအတွက် ရင်းနှီးမြှုပ်နှံမှုပမာဏကို ကျပ်သန်းပေါင်း ( 6,773.172)နှင့် အမေရိကန်ဒေါ်လာ သန်း (1.746234 ) ဖြင့် လုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန်နှင့် အဆိုပြုလမ်းအပိုင်းသည် ကုမ္ပဏီအနေဖြင့် လုပ်ငန်းစီမံကိန်း အသစ်အဖြစ်ခြင်းနှင့် ငွေကြေးအမြောက်အမြားဖြင့် ပြန်လည်ရင်းနှီးမြှုပ်နှံရသည့် စီမံကိန်းဖြစ်ပါ၍ လုပ်ငန်းလုပ်ကိုင်ခွင့် ကာလကို နှစ်(၃၀) ခွင့်ပြုပေးပါရန် ရင်းနှီးမြှုပ်နှံမှုဆိုင်ရာ တွက်ချက်မှု စာရင်းဇယားများဖြင့် ပြန်လည်တင်ပြအပ်ပါသည်။

၅။ ကုမ္ပဏီ၏ အဆိုပြုချက်အား ဝန်ကြီးဌာနမှ သဘောတူခွင့်ပြုပါက မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ ခွင့်ပြုမိန့် ရရှိရေးအတွက် ဆက်လက် တင်ပြပေးနိုင်ပါရန် လေးစားစွာတင်ပြ အပ်ပါသည်။

လေး စား စွာ ဖြင့်

HTUN MYINT NAING
*MANAGING DIRECTOR*
ASIA WORLD CO., LTD

မိတ္တူကို-
ဦးဆောင်ညွှန်ကြားရေးမှူး၊
ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း



# ASIA WORLD COMPANY LIMITED

NO.(61-62), BAHOSI DEVELOPMENT, WADAN STREET, LANMADAW TOWNSHIP, YANGON, MYANMAR.
TEL : 225271, 220074, 225982, 225184, 222422, FAX:(95-1) 227474, 227553, E-Mail:awc@mptmail.net.mm.

စာအမှတ်။ AWC/ROAD- 504/2006
ရက်စွဲ ။ ၂ - ၁၀ - ၂၀၀၆

သို့
ဝန်ကြီး
ဆောက်လုပ်ရေးဝန်ကြီးဌာန၊

အကြောင်းအရာ။ မန္တလေး - လားရှိုး - မူဆယ် ပြည်ထောင်စု လမ်းမကြီးတွင် မိုင်တိုင် ၁၂၃/၀ မှ ၁၇၂/၀ ထိ (၄၉)မိုင် လမ်းအပိုင်းအား ပြုပြင် ဖေါက်လုပ် လုပ်ငန်း လုပ်ကိုင်ခွင့် အဆိုပြုချက်။

ရည်ညွှန်းချက် ။ (၁) နိုင်ငံတော်အေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေးကောင်စီ၏ ၇-၄-၂၀၀၆ ရက်စွဲပါ စာအမှတ် - ၄၂၄/၃(ဂ)-၂/နယက

(၂) ဆောက်လုပ်ရေးဝန်ကြီးဌာန၏ ၂၀-၄-၂၀၀၆ ရက်စွဲပါ စာအမှတ် ၁/ခွဲ -၂ ထွေ /၂၀၀၆ (စီ- ၁၄၉၈)

(၃)ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း၏ ၁၆-၅-၂၀၀၆ ရက်စွဲပါ စာအမှတ် လစမ/ရှမ်းမြောက် /ဒိုင်မွန်းပဲလေ့စ် /၁၃၉

(၄) ကုမ္ပဏီ၏အဆိုပြုချက် - AWC-216 /2006 နှင့် AWC /306/2006

၁။ ကျွန်တော်များ Asia World Co.,Ltd သည် မန္တလေး-ပြင်ဦးလွင်-နောင်ချိုလားရှိုး-မူဆယ် ပြည်ထောင်စုလမ်းမကြီး၏ မိုင်တိုင် ၁၂၃/၀ မှ ၁၇၂/၀ ထိ (၄၉ မိုင်) ကျောက်မဲ-လားရှိုး လမ်းအပိုင်းကို ရည်ညွှန်းချက်(၁)(၂)(၃)ပါအရ ဝန်ကြီးဌာန၏ လုပ်ထုံးလုပ်နည်းများနှင့်အညီ ပြုပြင်ဖေါက်လုပ် လုပ်ငန်းလုပ်ကိုင်ခွင့် ပြုပါရန် ရည်ညွှန်းချက်(၄)ပါ အဆိုပြုလွှာကို တင်ပြခဲ့ပါသည်။

၂။ အဆိုပြု လမ်းအပိုင်း၏ ပဋိညာဉ်စာချုပ် (မူကြမ်း)ကို ၉-၇-၉၈ ရက်နေ့တွင် ဌာနနှင့် ကုမ္ပဏီတို့ အကြား ချုပ်ဆိုခဲ့ပြီးသည့် နောင်ချို-လားရှိုးလမ်းအပိုင်း(မိုင်တိုင် ၇၉ /၀ မှ ၁၂၃/၀ ထိ) ပဋိညာဉ် စာချုပ်ပါအတိုင်း ပြင်ဆင်၍ အဆိုပြု တင်ပြအပ်ပါသည်။



ASIA WORLD COMPANY LIMITED

NO.(61-62), BAHOSI DEVELOPMENT, WADAN STREET, LANMADAW TOWNSHIP, YANGON, MYANMAR.
TEL : 225271, 220074, 225982, 225184, 222422, FAX:(95-1) 227474, 227553, E-Mail:awc@mptmail.net.mm.

၃။ အဆိုပြုလမ်းအပိုင်းစီမံကိန်းကို ကျွန်တော်များကုမ္ပဏီအနေဖြင့် ကျပ်သန်းပေါင်း(၄၉၅၉) နှင့် နိုင်ငံခြားငွေ အမေရိကန်ဒေါ်လာ (၁.၅၉)သန်းကို ရင်းနှီးမြှုပ်နှံလျက် လမ်း-တံတား အသုံးပြုခကောက်ခံသည့် ဂိတ်(၂)ခု ဖွင့်လှစ်ပြီး၊ ပဋိညာဉ်စာချုပ် (မူကြမ်း)ပါ စည်းကမ်း သတ်မှတ်ချက်များနှင့်အညီ စီမံကိန်းလုပ်ငန်းများကို အကောင်အထည်ဖေါ် ဆောင်ရွက်သွား မည် ဖြစ်ပါသည်။

၄။ အဆိုပြုလမ်းစီမံကိန်းတွင် ပြန်လည်တည်ဆောက်ရမည့် သံပေါ်တံတားမှာ ပေ-၅၀၀ခန့် အရှည်ရှိမည် ဖြစ်သည့်အတွက် တည်ဆောက်မှုကုန်ကျစာရိတ်မှာ အလွန်များပြားမည် ဖြစ်ပါ၍ နိုင်ငံတော်၏ စီမံကိန်းဝင်တံတား တစ်ခုအဖြစ် သတ်မှတ်လျက် ဌာနမှ တည်ဆောက်ပေးနိုင်ပါ ရန် တင်ပြအပ်ပါသည်။ အကယ်၍ စီမံကိန်းဝင် တံတားအရှည်ရှိ တံတားကြီးများကို ကုမ္ပဏီမှ တည်ဆောက်ရသည့်အခါ အဆိုပါ တံတားများအတွက် တံတားအသုံးပြုခကို ဌာနမှ ကောက်ခံလျက်ရှိနေသော စီမံကိန်းဝင် တံတားများ၏ တံတားအသုံးပြုခ နှုန်းထားများအတိုင်း ကောက်ခံခွင့် ပြုပါရန် တင်ပြအပ်ပါသည်။

၅။ ကျွန်တော်များကုမ္ပဏီ၏ အဆိုပြုတင်ပြချက်နှင့် ပတ်သက်၍ ဝန်ကြီးဌာနမှ သဘောတူ ခွင့်ပြုပါက မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ ခွင့်ပြုမိန့်ဖြင့် လုပ်ငန်းဆောင်ရွက်သွားနိုင်ရေးအတွက် ဆက်လက်တင်ပြ လျှောက်ထားခွင့် ပြုပေး နိုင်ပါရန် အဆိုပြုလွှာကို တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

HTUN MYINT NAING
MANAGING DIRECTOR
ASIA WORLD CO., LTD

မိတ္တူကို-

(၁) ဒုတိယဝန်ကြီး၊ ဆောက်လုပ်ရေးဝန်ကြီးဌာန။

(၂) ဦးဆောင်ညွှန်ကြားရေးမှူး၊ (ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း)။



ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
ဆောက်လုပ်ရေးဝန်ကြီးဌာန

စာအမှတ်၊ ၁/ခွဲ-၂/ထွေ/၂၀၀၆(ကုမ္ပဏီ) (စီ ၃၅၀၀)
ရက် စွဲ၊ ၂၀၀၆ ခုနှစ် ဩဂုတ်လ ၂၅ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ မန္တလေး-လားရှိုး-မူဆယ်ပြည်ထောင်စုလမ်းမကြီး၏မိုင်တိုင် ၁၂၃/၀မှ ၁၇၂/၀ထိ (၄၉)မိုင် လမ်းအပိုင်းကို လွှဲပြောင်းလက်ခံပြီးဖြစ်ကြောင်း တင်ပြခြင်း

အထက်အကြောင်းအရာပါကိစ္စနှင့် ပတ်သက်၍ အေးရှားဝေါလ်ကုမ္ပဏီလီမိတက် ၏ ၂၀၀၆ ခုနှစ် ဩဂုတ်လ (၂၃) ရက်နေ့စွဲပါစာအမှတ်၊ AWC / 450 / 2006 စာမိတ္တူကိုသိရှိနိုင်ရန် ပူးတွဲပေးပို့ပါသည် ။

ဝန်ကြီး(ကိုယ်စား)
(ကျော်ဝင်း၊ ရုံးအဖွဲ့မှူး)

မိတ္တူကို
- အေးရှားဝေါလ်ကုမ္ပဏီလီမိတက် ။

-/မာ

D:/EMH/2006 K2 BC/PG 140



# ASIA WORLD COMPANY LIMITED

NO.(61-62), BAHOSI DEVELOPMENT, WADAN STREET, LANMADAW TOWNSHIP, YANGON, MYANMAR.
TEL.: 225271, 220074, 225982, 225184, 222422, FAX:(95-1) 227474, 227553, E-Mail:awc@mptmail.net.mm.

စာအမှတ်။ AWC / ၄၆၀/ 2006
ရက်စွဲ။ ၂၃ - ၀၈ - ၂၀၀၆

သို့

ဝန်ကြီး
ဆောက်လုပ်ရေးဝန်ကြီးဌာန

အကြောင်းအရာ။ မန္တလေး-လားရှိုး-မူဆယ် ပြည်ထောင်စုလမ်းမကြီး၏ မိုင်တိုင် ၁၂၃/၀ မှ ၁၇၂/၀ ထိ(၄၉)မိုင် လမ်းအပိုင်းကို လွှဲပြောင်းလက်ခံပြီးဖြစ်ပါကြောင်း တင်ပြ အစီရင်ခံချက်။

ရည်ညွှန်းချက် ။ ဆောက်လုပ်ရေးဝန်ကြီးဌာန၏ ၁၄-၈-၂၀၀၆ ရက်စွဲပါ စာအမှတ် - ၁ / ခွဲ-၂/ ထွေ / ၂၀၀၆(စီ-၂၈၃၁)

၁။ ကျွန်တော်များ Asia World Co.,Ltd သည် မန္တလေး-လားရှိုး-မူဆယ် ပြည်ထောင်စုလမ်းမကြီး၏ မိုင်တိုင် ၁၂၃/၀ မှ ၁၇၂/၀ ထိ (၄၉-မိုင်) လမ်းအပိုင်းကို ရည်ညွှန်းပါအရ အရှေ့မြောက်တိုင်းစစ်ဌာနချုပ်နှင့် ပြည်နယ်အင်ဂျင်နီယာမှူးကြီး (ရှမ်းပြည်မြောက်ပိုင်း၊ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း၊) တို့မှ ဖွဲ့စည်းပေးသည့် ကြီးကြပ်မှုအဖွဲ့ဖြင့် ဒိုင်းမွန်းပဲလေ့စ်ကုမ္ပဏီလီမိတက်ထံမှ ၂၆-၈-၂၀၀၆ ရက်နေ့တွင် စတင်၍ လွှဲပြောင်း လက်ခံခဲ့ပါသည်။

၂။ အဆိုပါ လမ်းအပိုင်းရှိ လမ်းအသုံးပြုခ ကောက်ခံလျက်ရှိနေသည့်ဂိတ် (၂)ဂိတ်ကိုလည်း လွှဲပြောင်းလက်ခံခဲ့ပြီး၊ မူလကောက်ခံလျက် ရှိနေသည့် အောက်ပါ လမ်းအသုံးပြုခ နှုန်းထားများအတိုင်း ၂၆-၈-၂၀၀၆ ရက်နေ့ နံနက်(၆း၀၀)နာရီ အချိန်မှ စတင်၍ ကျွန်တော်များကုမ္ပဏီမှ ကောက်ခံ လျက်ရှိနေပြီး ဖြစ်ပါသည်-

(၁) ယာဉ်ငယ်များ ( ၁-တန်အောက်) - တစ်စီးလျှင် ကျပ်( ၁၀၀)၊
(၂) ယာဉ်လတ်များ (၁-တန် မှ ၂<sup></sup>
(၃) ကားကြီးများ ( ၅-တန်အောက်) - တစ်စီးလျှင် ကျပ်( ၅၀၀)၊
(၄) ကုန်တင်ယာဉ်ကြီးများ ( ၁၀-တန်အောက် ) - တစ်စီးလျှင် ကျပ်(၁၀၀၀)၊
(၅) ကုန်တင်ယာဉ်ကြီးများ (၂၀-တန်အောက် ) - တစ်စီးလျှင် ကျပ်(၂၀၀၀)၊

( တန်-၂၀နှင့်အထက် ယာဉ်များသည် နောက်ထပ်ပိုသော ၁-တန်တိုင်းအတွက် ကျပ်-၂၀၀ စီ ထပ်မံပေးဆောင်ရမည်။)



# ASIA WORLD COMPANY LIMITED

NO.(61-62), BAHOSI DEVELOPMENT, WADAN STREET, LANMADAW TOWNSHIP, YANGON, MYANMAR.
TEL : 225271, 220074, 225982, 225184, 222422, FAX:(95-1) 227474, 227553, E-Mail:awc@mptmail.net.mm.

၃။ အဆိုပါလမ်းအပိုင်းရှိ လမ်းနှင့် တံတားများ ပြုပြင်ဖေါက်လုပ် တည်ဆောက်ရေးအတွက် ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်းမှ လမ်းပုံထုတ်ဌာနစိတ်၊ တံတားဦးစီး တို့အဖွဲ့နှင့် ကုမ္ပဏီမှ အင်ဂျင်နီယာအဖွဲ့တို့ ပူးပေါင်းလျက် လေ့လာတိုင်းတာခြင်း လုပ်ငန်းများကို စတင်ဆောင်ရွက်လျက် ရှိနေပြီး ဖြစ်ပါကြောင်း လွှဲပြောင်းပေးအပ်ခြင်း အစီရင်ခံစာကို ပူးတွဲလျက် တင်ပြအစီရင်ခံ အပ်ပါသည်။

လေး စား စွာ ဖြင့်

HTUN MYINT NAING
MANAGING DIRECTOR
ASIA WORLD CO., LTD



# DIAMOND PALACE CONSTRUCTION CO.,LTD.

3(B), Thitsar Road, 6 Block, Yankin Tsp,Yangon, Myanmar.
Tel : 95-1-578929, 726767 Fax : 95-1-560772 HP: 099922870
E-mail: zegyo@mandalay.net.mm d_palace@mandalay.net.mm
Website: www.zegyo.com

စာအမှတ် ။ ၂၃၃၉/ဒိုင်းမွန်း/၂၀၀၆
ရက်စွဲ ။ ၂၀၀၆ခုနှစ်၊ဇူလိုင်လ(၃၁)ရက်။

အကြောင်းအရာ ။ မန္တလေး-လားရှိုး-မူဆယ်ပြည်ထောင်စုလမ်းမကြီး၊ ဘော်ကြို-လားရှိုးအပိုင်း(၁၂၃/၀-၁၇၂/၀)ရှိလမ်း/တံတားအဆောက်အအုံများကိုဒိုင်းမွန်းပဲလေ့(စ်)ကုမ္ပဏီလီမိတက်မှအေးရှားဝေါလ်ကုမ္ပဏီလီမိတက်သို့လွှဲပြောင်းပေးအပ်ခြင်း။

ရည်ညွှန်းချက် ။ ရှမ်းပြည်နယ်အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီ (မြောက်ပိုင်း)၏စာအမှတ် ၂၁၁၀/၂-၁၈/ပယက (ရှမ်း) မပ (၁၄၃၂)

၁။ အကြောင်းအရာပါကိစ္စနှင့် ပတ်သက်၍ ရည်ညွှန်းစာအရ မန္တလေး-လားရှိုး-မူဆယ်ပြည်ထောင်စုလမ်းမကြီး၊ ဘော်ကြို-လားရှိုးအပိုင်း(၁၂၃/၀-၁၇၂/၀) ကို ဒိုင်းမွန်းပဲလေ့(စ်)ကုမ္ပဏီလီမိတက်မှ အေးရှားဝေါလ်ကုမ္ပဏီလီမိတက်သို့ အောက်ပါအတိုင်းလွှဲပြောင်းပေးအပ်ပြီးကြောင်း လက်မှတ်ရေးထိုးကြပါသည်။

၂။ (က) လမ်းလွှဲပြောင်းစာရင်းများ
(ခ) တံတားလွှဲပြောင်းစာရင်းများ
(ဂ) အဆောက်အအုံလွှဲပြောင်းစာရင်း (သီပေါ)
(ဃ) အဆောက်အအုံလွှဲပြောင်းစာရင်း (ခေးနင်း)
(င) သီပေါတိုးဂိတ်ပြင်ပလျှပ်စစ်လွှဲပြောင်းစာရင်း
(စ) ခေးနင်းတိုးဂိတ်ပြင်ပလျှပ်စစ်လွှဲပြောင်းစာရင်း
(ဆ) လမ်းခင်းကျောက်လွှဲပြောင်းစာရင်း
(ဇ) လမ်း/တံတားသုံး ပစ္စည်းစာရင်း
(ဈ) လွှဲပြောင်းဝန်ထမ်းစာရင်း

၃။ လွှဲပြောင်းပေးသူ၊ လွှဲပြောင်းလက်ခံသူနှင့် အတည်ပြုသူများ လက်မှတ်ရေးထိုးခြင်း။

လွှဲပြောင်းပေးသူ

2.1.14

(ဦးမောင်နီ)
အထွေထွေမန်နေဂျာ
ဒိုင်းမွန်းပဲလေ့(စ်)ကုမ္ပဏီလီမိတက်

လွှဲပြောင်းလက်ခံသူ

(ဒေါ်နန်းကြာလီ)
စီမံကိန်းမန်နေဂျာ
အေးရှားဝေါလ်ကုမ္ပဏီလီမိတက်

MANDALAY BRANCH
3rd floor, South Titetangyi, Zegyo, 84th Street, Between 27th & 28th Street, Mandalay, Myanmar.
Tel : 95-02-39494, 39495, 39990, 39991 Fax : 95-02-39992

(ဦးသန်းစိန်)
အင်ဂျင်နီယာချုပ်
ဒိုင်းမွန်းပဲလေ့(စ်)ကုမ္ပဏီလီမိတက်

(ဦးတင်ကိုကို)
စီမံကိန်းမန်နေဂျာ
အေးရှားဝေါလ်ကုမ္ပဏီလီမိတက်

(ဦးနေဝင်း)
အင်ဂျင်နီယာချုပ်
ဒိုင်းမွန်းပဲလေ့(စ်)ကုမ္ပဏီလီမိတက်

(ဦးချစ်ထွန်း)
စီမံကိန်းအင်ဂျင်နီယာ
အေးရှားဝေါလ်ကုမ္ပဏီလီမိတက်

(ဦးကျော်မင်းသိန်း)
ပြည်နယ်အင်ဂျင်နီယာမှူးကြီး (ရှမ်း/မြောက်)
ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း
လားရှိုးမြို့



**ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ**
**ဆောက်လုပ်ရေးဝန်ကြီးဌာန**

စာအမှတ်၊ ၁/ခွဲ-၂/ထွေ/၂၀၀၆ (စီ ၂၈၃၁)
ရက် စွဲ၊ ၂၀၀၆ ခုနှစ် ဇူလိုင်လ ၁၄ ရက်

အကြောင်းအရာ။ လမ်းတံတားများလွှဲပြောင်းပေးရေး

ရည် ညွှန်း ချက်။ နိုင်ငံတော်အေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေးကောင်စီရုံး၏ ၂၀၀၆ခုနှစ် ဧပြီလ (၇)ရက်နေ့စွဲပါစာအမှတ်၊ ၄၂၄/၃ (ဂ)-၂/နယက

မန္တလေး-လားရှိုးပြည်ထောင်စုလမ်းမကြီး၏မိုင်တိုင်(၁၂၃/၀)မှ(၁၇၂/၀)ထိ လမ်းလုပ်ငန်းအပိုင်းကို အေးရှားဝေါလ်ကုမ္ပဏီသို့ ဒိုင်းမွန်းပွဲလေ့စ်ကုမ္ပဏီမှ လွှဲပြောင်းပေးရေးကို ရည်ညွှန်းစာဖြင့် နိုင်ငံတော်အေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေးကောင်စီရုံးမှအကြောင်းကြားပြီးဖြစ်သဖြင့် အေးရှားဝေါလ်ကုမ္ပဏီမှ မိုင်တိုင် (၁၂၃/၀) မှ (၁၇၂/၀) အတွင်း လမ်း-တံတား လုပ်ငန်းပြင်ဆင်ထိန်းသိမ်းခြင်းကို ဆောင်ရွက်နိုင်ရန် ယခုလကုန်(၂၀၀၆ခုနှစ် ဇူလိုင်လ(၃၁)ရက်နေ့အပြီး) လွှဲပြောင်းဆောင်ရွက်နိုင်ရေးအတွက် သက်ဆိုင်ရာ ဒေသအာဏာပိုင်မှ ကြီးကြပ်ကူညီဆောင်ရွက်ပေးပါရန် ညှိနှိုင်းမေတ္တာရပ်ခံအပ်ပါသည် ။

(ဗိုလ်ချုပ်စောထွန်း)
ဝန်ကြီး ၁၄.၇

<u>တိုင်းမှူး၊</u>
<u>အရှေ့မြောက်တိုင်းစစ်ဌာနချုပ်။</u>

မိတ္တူကို
- ဦးဆောင်ညွှန်ကြားရေးမှူး၊ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း ။
- အေးရှားဝေါလ်ကုမ္ပဏီလီမိတက် } လမ်း-တံတားများ လွှဲပြောင်းရယူပြီး ပြင်ဆင်ထိန်းသိမ်းရေး လုပ်ငန်းများ ဆောင်ရွက်ရန်
- ဒိုင်းမွန်းပွဲလေ့စ်ကုမ္ပဏီလီမိတက်

•/မာ



D-/DM1/2006 K2 DC/PG 115



ပြည်ထောင်စုမြန်မာနိုင်ငံတော်
နိုင်ငံတော်အေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေးကောင်စီရုံး

စာအမှတ်၊ ၄၂၄/၃(၈) - ၂ / နယက
ရက်စွဲ၊ ၂၀၀၆ ခုနှစ်၊ ဧပြီလ ၄ ရက်

သို့

ဝန်ကြီး
ဆောက်လုပ်ရေးဝန်ကြီးဌာန

အကြောင်းအရာ။ ဒိုင်းမွန်းပဲ့လေ့စ်ကုမ္ပဏီမှ ဆောင်ရွက်လျက်ရှိသောလမ်းလုပ်ငန်းကို လွှဲပြောင်းပေးရေးကိစ္စ

ရည်ညွှန်းချက်။ (၁) ကာကွယ်ရေးဦးစီးချုပ်ရုံး (ကြည်း) အမှတ်(၂) စစ်ဆင်ရေးအထူးအဖွဲ့မှူးရုံး၏ ၈-၂-၂၀၀၆ ရက်စွဲပါစာအမှတ်၊ ၁၀၁၈/ကစထ-၂/ဦး ၁

(၂) ဆောက်လုပ်ရေးဝန်ကြီးဌာန၏ ၂၀-၃-၂၀၀၆ ရက်စွဲပါစာအမှတ်၊ ၁/ခွဲ-၂/ထွေ/၂၀၀၆ (ရက) (စီ ၅၄)

မန္တလေး-လားရှိုး ပြည်ထောင်စုလမ်းမကြီး၏ မိုင်တိုင်(၁၂၃/၀)မှ (၁၇၂/၀)ထိ ဒိုင်းမွန်းပဲ့လေ့စ်ကုမ္ပဏီအားလုပ်ငန်းလုပ်ကိုင်ခွင့်ပြုထားသော လမ်းလုပ်ငန်းအပိုင်းကို အေးရှားဝေါလ်ကုမ္ပဏီသို့ လွှဲပြောင်းဆောင်ရွက်ခွင့်ပြုရေးအတွက် လုပ်ထုံးလုပ်နည်းများနှင့်အညီ ဆက်လက်ဆောင်ရွက်ရန် အကြောင်းကြားပါသည်။

အတွင်းရေးမှူး (ကိုယ်စား)

မိတ္တူကို

ကာကွယ်ရေးဦးစီးချုပ်ရုံး (ကြည်း) အမှတ်(၂) စစ်ဆင်ရေးအထူးအဖွဲ့မှူးရုံး
အရှေ့မြောက်တိုင်းစစ်ဌာနချုပ်



**ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ**
**ဆောက်လုပ်ရေးဝန်ကြီးဌာန**

စာအမှတ်၊ ၁/ခွဲ-၂/ထွေ/၂၀၀၆(ကုမ္ပဏီ)(စီ ၁၈၇၄)
ရက် စွဲ၊ ၂၀၀၆ ခုနှစ် မေလ ၁၉ ရက်

အကြောင်းအရာ။ ဒိုင်းမွန်းပဲလေ့စ်ကုမ္ပဏီမှ ဆောင်ရွက်လျက်ရှိသော လမ်းလုပ်ငန်းကို လွှဲပြောင်းရယူရေးကိစ္စ

ရည် ညွှန်း ချက်။ (၁) နိုင်ငံတော်အေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေးကောင်စီရုံး၏ ၂၀၀၆ခုနှစ် ဧပြီလ (၇)ရက်နေ့စွဲပါစာအမှတ်၊ ၄၂၆/၃(ဂ)-၂/နယက

(၂) ဤဝန်ကြီးရုံး၏ ၂၀၀၆ခုနှစ် မတ်လ (၂၀)ရက် နေ့စွဲပါ စာအမှတ်၊ ၁/ခွဲ-၂/ထွေ/၂၀၀၆ (ရက) (စီ ၅၄)

(၃) ဤဝန်ကြီးရုံး၏ ၂၀၀၆ခုနှစ် ဧပြီလ (၂၀)ရက် နေ့စွဲပါ စာအမှတ်၊ ၁/ခွဲ-၂/ထွေ/၂၀၀၆ (စီ ၁၄၉၈)

အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍မန္တလေး-လားရှိုးပြည်ထောင်စုလမ်းမကြီး၏ မိုင်တိုင် (၁၂၃/၀ မှ ၁၇၂/၀ ထိ) ဒိုင်းမွန်းပဲလေ့စ်ကုမ္ပဏီအား လုပ်ငန်းလုပ်ကိုင်ခွင့်ပြုထားသော လမ်းလုပ်ငန်းအပိုင်းကို အေးရှားဝေါလ်ကုမ္ပဏီမှ လုပ်ထုံးလုပ်နည်းများနှင့်အညီ အပိုင်းလိုက် ရှင်းသွားအောင်လွှဲပြောင်းရယူနိုင်ရေး ဆောင်ရွက်ပေးပြီး လမ်းပြုပြင်ထိန်းသိမ်းခြင်းလုပ်ငန်းများကို အေးရှားဝေါလ်ကုမ္ပဏီမှ အချိန်မီဆက်လက် ဆောင်ရွက်နိုင်ရေး အရေးယူဆောင်ရွက်သွားပါရန် အကြောင်းကြားပါသည် ။

ဝန်ကြီး(ကိုယ်စား)
(ကျော်ဝင်း ၊ရုံးအဖွဲ့မှူး)

<u>ဦးဆောင်ညွှန်ကြားရေးမှူး ၊
ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း ။</u>

မိတ္တူကို

- အရှေ့မြောက်တိုင်းစစ်ဌာနချုပ် ။
- ဒုတိယဦးဆောင်ညွှန်ကြားရေးမှူး (လုပ်ငန်း) ၊ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း ။
- အင်ဂျင်နီယာမှူးကြီး (လမ်း) ၊ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း ။
- အင်ဂျင်နီယာမှူးကြီး၊ရှမ်းပြည်နယ်(မြောက်ပိုင်း) ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း ။
- အေးရှားဝေါလ်ကုမ္ပဏီလီမိတက်

} လမ်းပြုပြင်ထိန်းသိမ်းခြင်းလုပ်ငန်းများ တိုလိုအပ်ချက်အရအချိန်မီဆက်လက် ဆောင်ရွက်နိုင်ရေးအတွက် လမ်းလုပ်ငန်းများလွှဲပြောင်း ပေးခြင်းတို ကြီးကြပ် ဆောင်ရွက်ပေးနိုင်ပါရန်

KHWE 2 BC (L) 104

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
ဆောက်လုပ်ရေးဝန်ကြီးဌာန
ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း
လမ်းဦးစီး

စာအမှတ် - လစမ/ရှမ်းမြောက်/ဒိုင်းမွန်းပဲလေ့စ်/၁၃၉
ရက်စွဲ - ၂၀၀၆ ခုနှစ်၊ မေလ (၁၆ ) ရက်

အကြောင်းအရာ။ ဒိုင်းမွန်းပဲလေ့စ်ကုမ္ပဏီမှ ဆောင်ရွက်လျက်ရှိသော လမ်းလုပ်ငန်းကို လွှဲပြောင်းပေးရေးကိစ္စ။

ရည်ညွှန်းချက်။ ဝန်ကြီးရုံး၊ ဆောက်လုပ်ရေးဝန်ကြီးဌာန၏ ၂၀၀၆ ခုနှစ်၊ ဧပြီလ (၂၀) ရက်နေ့စွဲပါ စာအမှတ် - ၁/ခွဲ-၂/ထွေ/၂၀၀၆ (စီ ၁၄၉၈)

၁။ အထက်အကြောင်းအရာပါကိစ္စနှင့် ပတ်သက်၍ ဒိုင်းမွန်းပဲလေ့စ်ကုမ္ပဏီအား လုပ်ငန်းလုပ်ကိုင်ခွင့်ပြုထားသော မန္တလေး-လားရှိုး ပြည်ထောင်စုလမ်းမကြီး၏ မိုင်တိုင် (၁၂၃/၀) မှ (၁၇၂/၀) ထိ လမ်းလုပ်ငန်းအပိုင်းကို အေးရှားဝေါလ်ကုမ္ပဏီသို့ လွှဲပြောင်းဆောင်ရွက်ခွင့်ပြုရေးအတွက် လုပ်ထုံးလုပ်နည်းများနှင့်အညီ ဆက်လက်ဆောင်ရွက်သွားပါရန် နိုင်ငံတော်အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီရုံး၏ ၂၀၀၆ ခုနှစ်၊ ဧပြီလ (၇) ရက်နေ့စွဲပါစာအမှတ်၊ ၄၂၄/၃(ဂ) - ၂/နယက ဖြင့် အကြောင်းကြားစာမိတ္တူပူးတွဲလျက် ရည်ညွှန်းချက်စာဖြင့် အကြောင်းကြားလာပါသည်၊

၂။ သို့ဖြစ်ပါ၍ ဒိုင်းမွန်းပဲလေ့စ်ကုမ္ပဏီမှ ဆောင်ရွက်လျက်ရှိသော လမ်းလုပ်ငန်းများကို လွှဲပြောင်းရယူဆောင်ရွက်နိုင်ရန်အတွက် အရေးယူဆောင်ရွက်ပါရန် အသိပေးအကြောင်းကြားပါသည်။

(လက်မှတ်) ၁၆/၅/၀၆
(ဟန်ဇော်)
ဦးဆောင်ညွှန်ကြားရေးမှူး

✓ ဦးဆောင်ညွှန်ကြားရေးမှူး
အေးရှားဝေါလ်ကုမ္ပဏီလီမိတက်

မိတ္တူကို –
- ဝန်ကြီးရုံး၊ ဆောက်လုပ်ရေးဝန်ကြီးဌာန
- ဦးသန်းထွဋ်၊ အကြံပေးပုဂ္ဂိုလ်၊ ဆောက်လုပ်ရေးဝန်ကြီးဌာန
- ဒု-ဦးဆောင်ညွှန်ကြားရေးမှူး (လုပ်ငန်း/စီမံကိန်း/အုပ်ချုပ်ရေး)၊ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း
- အင်ဂျင်နီယာချုပ် (လမ်း)၊ အထက်မြန်မာပြည်၊ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း
- အင်ဂျင်နီယာမှူးကြီး (လမ်း)၊ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း
- ဒိုင်းမွန်းပဲလေ့စ်ကုမ္ပဏီလီမိတက်
- ရုံးလက်ခံ/မျှောစာတွဲ



ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
ဆောက်လုပ်ရေးဝန်ကြီးဌာန

စာအမှတ်၊ ၁/ ခွဲ-၂/ တွေ/ ၂၀၀၆ (စီ ၁၄၅၀)
ရက်စွဲ ၊ ၂၀၀၆ ခုနှစ်၊ ဧပြီလ ၂၀ ရက်

အကြောင်းအရာ ။ ဒိုင်းမှန်းဝဲ လေ့စ်တူမှတ်မှ ဆောင်ရွက်လျက်ရှိသော သသဝ် လုပ်ငန်းကို လွှဲပြောင်းပေးရေးကိစ္စ

ရည်ညွှန်းချက် ။ (၁) ကာကွယ်ရေးဦးစီးချုပ်ရုံး (ကြည်း) အမှတ် (၂) စစ်ဆင်ရေးအထူးအဖွဲ့မှူးရုံး၏ ၂၀၀၆ ခုနှစ်၊ ဖေဖော်ဝါရီလ ၈ ရက်နေ့စွဲပါ စာအမှတ်၊ ၁၀၁၈/ တစအ-၂/ ဦး ၁

(၂) ဌာနဝန်ကြီးရုံး၏ ၂၀၀၆ ခုနှစ်၊ မတ်လ ၂၁ ရက်နေ့စွဲပါ စာအမှတ်၊ ၁/ ခွဲ-၂/ တွေ/ ၂၀၀၆ (ရတ) ([illegible])

အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ နိုင်ငံတော်အေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေးကောင်စီရုံး၏ ၂၀၀၆ ခုနှစ်၊ ဧပြီလ ၇ ရက်နေ့စွဲပါ စာအမှတ် ၄၂၄/၃(ဂ)-၂/နယက စာမိတ္တူကို ပူးတွဲပေးပို့လျက် သိရှိနိုင်ရန်နှင့် လိုအပ်သလို အရေးယူဆောင်ရွက်နိုင်ရန် အကြောင်းကြားပါသည်။

ဝန်ကြီး (ကိုယ်စား)

(ညွှန့်ဦးမြင့်၊ အဖွဲ့ခွဲမှူး)

ဦးဆောင်ညွှန်ကြားရေးမှူး၊
ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း ။

မိတ္တူကို - ဒုတိယဦးဆောင်ညွှန်ကြားရေးမှူး (လုပ်ငန်း)၊ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း ။
- အင်ဂျင်နီယာမှူးကြီး (လမ်း) ။



# ASIA WORLD COMPANY LIMITED

NO.(61-62), BAHOSI DEVELOPMENT, WADAN STREET, LANMADAW TOWNSHIP, YANGON, MYANMAR.
TEL : 225271, 220074, 225982, 225184, 222422, FAX:(95-1) 227474, 227553, E-Mail:awc@mptmail.net.mm.

စာအမှတ် ။ AWC / MIC-504 / 2007
ရက်စွဲ ။ - - ၂၀၀၇

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊

အကြောင်းအရာ။ မန္တလေး – လားရှိုး – မူဆယ် ပြည်ထောင်စု လမ်းမကြီးတွင် မိုင်တိုင် ၁၂၃/၀ မှ ၁၇၂/၀ ထိ (၄၉)မိုင် လမ်းအပိုင်းအား ပြုပြင် ဖေါက်လုပ်ခွင့် လုပ်ငန်း လုပ်ကိုင်ခွင့် အဆိုပြုချက်။

ရည်ညွှန်းချက် ။
(၁) နိုင်ငံတော်အေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေးကောင်စီ၏ ၇-၄-၂၀၀၆ ရက်စွဲပါ စာအမှတ်-၄၂၄ /၃(ဂ)-၂/နယက
(၂) ဆောက်လုပ်ရေးဝန်ကြီးဌာန၏ ၂၀-၄-၂၀၀၀၆ ရက်စွဲပါ စာအမှတ် ၁/ခွဲ-၂ ထွေ /၂၀၀၆ (စီ-၁၄၉၈)
(၃) ပြည်သူဆောက်လုပ်ရေးလုပ်ငန်း၏ ၁၆-၅-၂၀၀၆ ရက်စွဲပါ စာအမှတ် လစမ/ရှမ်းမြောက် /ဒိုင်မွန်းပဲလေ့စ် /၁၃၉
(၄) ကုမ္ပဏီ၏ အဆိုပြုချက် AWC / 216/2006 နှင့် AWC / 306/2006

၁။ ကျွန်တော်များ Asia World Co.,Ltd သည် မန္တလေး-ပြင်ဦးလွင်-နောင်ချို-လားရှိုး-မူဆယ် ပြည်ထောင်စုလမ်းမကြီး၏ မိုင်တိုင် ၁၂၃/၀ မှ ၁၇၂/၀ ထိ (၄၉-မိုင်) ကျောက်မဲ-လားရှိုး လမ်းအပိုင်းကို ရည်ညွှန်းချက်(၁)(၂)(၃)ပါအရ ပြုပြင်ဖေါက်လုပ် လုပ်ငန်းလုပ်ကိုင်ခွင့်ကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ခွင့်ပြုမိန့်ဖြင့် လုပ်ငန်းဆောင်ရွက် သွားနိုင်ရေးအတွက် အဆိုပြုတင်ပြခြင်းဖြစ်ပါသည်။

၂။ အဆိုပြုစီမံကိန်းမှာ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ခွင့်ပြုမိန့်နှင့် လုပ်ငန်းဆောင်ရွက်နေသည့် နောင်ချို - (ကျောက်မဲ)လားရှိုး (မိုင် ၇၉၀/၀ မှ ၁၂၃/၀ထိ) နှင့် လားရှိုး-မူဆယ် လမ်းမကြီးတို့နှင့် တစ်ဆက်တည်း ယင်းစီမံကိန်းများ၏ ပဋိညာဉ်စာချုပ်များပါ စည်းကမ်းသတ်မှတ်ချက် ပြဋ္ဌာန်းချက် များနည်းတူ အကောင်အထည်ဖေါ် ဆောင်ရွက်မည်ဖြစ်ပြီး၊ စီမံကိန်းကို ကျပ်သန်းပေါင်း (၆,၇၇၃. ၁၇) နှင့် အမေရိကန်ဒေါ်လာ (၁. ၇၆၄၂၃၄)သန်းဖြင့် လမ်း-တံတား အသုံးပြုခ ကောက်ခံသည့် ဂိတ်(၂)ခု ဖွင့်လှစ်၍ နှစ် (၃၀) ရင်းနှီးမြှုပ်နှံ ဆောင်ရွက်မည်ဖြစ်ပါသည်။



# ASIA WORLD COMPANY LIMITED

NO.(61-62), BAHOSI DEVELOPMENT, WADAN STREET, LANMADAW TOWNSHIP, YANGON, MYANMAR.
TEL : 225271, 220074, 225982, 225184, 222422, FAX:(95-1) 227474, 227553, E-Mail:awc@mptmail.net.mm.

၃။ ကျွန်တော်များကုမ္ပဏီအနေဖြင့် အဆိုပြုလမ်းစီမံကိန်းကို နယ်စပ်ဒေသနှင့် ပြည်နယ်တိုင်းဒေသ အသီးသီးသို့ အချိန်တိုအတွင်း သွားလာနိုင်ရေး၊ လမ်းပန်းဆက်သွယ်မှု လုံခြုံချောမွေ့စေရေးနှင့် နယ်စပ် ဒေသများတွင် နိုင်ငံရေး ၊စီးပွားရေး လူမှုရေး အဆင့်အတန်း ပိုမိုဖွံ့ဖြိုးတိုးတက်စေပြီး၊ နိုင်ငံတော်အနေဖြင့် ရသင့်ရထိုက်သည့် အခွန်ဘဏ္ဍာငွေများ ရရှိနိုင်စေရန် စသည့်ရည်ရွယ်ချက်များဖြင့် အကောင်အထည်ဖေါ်သွားရန် အဆိုပြုခြင်း ဖြစ်ပါသည်။

၄။ သို့ဖြစ်ပါ၍ ကုမ္ပဏီ၏ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှပ်နှံမှု ဥပဒေနှင်အညီခွင့်ပြုမိန့်ဖြင့် ဆောင်ရွက်ခွင့် ပြုပါရန်ကိုလည်းကောင်း၊ မြန်မာနိုင်ငံသားများရင်းနှီးမြှပ်နှံမှု ဥပဒေအခန်း-၇၊ အပိုဒ်(၁၂)နှင့်(၁၃)ပါ ပြဌာန်းထားသည့်အတိုင်း ပထမ(၃)နှစ်ကို ဝင်ငွေခွန်နှင့် ကုန်သွယ်လုပ်ငန်း ကင်းလွတ်၊ အခွန်ဆိုင်ရာ သက်သာခွင့်များ ခွင့်ပြုပေးပါရန်ကို လည်းကောင်း၊ တင်ပြလျှောက်ထားအပ်ပါသည်။

၅။ အဆိုပြုလုပ်ငန်း လုပ်ကိုင်ခွင့်ကာလ ပြည့်ချိန်တွင် ရင်းနှီးမြှပ်နှံမှု အကျိုးအမြတ်ပေါ်မူတည်လျက် ဆက်လက် လုပ်ငန်းလုပ်ဆောင်ခွင့် သက်တမ်းအား တစ်ကြိမ်လျှင် (၅-နှစ်)စီဖြင့် (၂)ကြိမ် သက်တမ်းတိုး မြှင့်ခွင့်ပြုပေးပါရန်ကိုလည်း လေးစားစွာ အဆိုပြု တင်ပြလျှောက်ထားအပ်ပါသည်။

ရိုသေ လေး စား စွာ ဖြင့်

( ထွန်းမြင့်နိုင် )
အုပ်ချုပ်မှုဒါရိုက်တာ
အေးရှားဝါး(လ်) ကုမ္ပဏီလီမိတက်။



# မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ

# ရင်းနှီးမြှုပ်နှံလိုသူ၏

# အဆိုပြုချက်

ပုံစံ (မနသ-၁)

**မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ
ရင်းနှီးမြှုပ်နှံလိုသူ၏ အဆိုပြုချက်
( ဥပဒေပုဒ်မ ၂ ပုဒ်မခွဲ (ဂ) နှင့် ပုဒ်မ ၈ )**

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်။

စာအမှတ်။ AWC / ROAD- / 2007
ရက်စွဲ ။ - - ၀၈ - ၂၀၀၇

ကျွန်တော်သည် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း ရင်းနှီးမြှုပ်နှံမှု ပြုလုပ်လိုပါသဖြင့် ခွင့်ပြုမိန့်ထုတ်ပေးပါရန် အောက်ပါအချက်များကို ဖော်ပြ၍ လျှောက်ထားအပ်ပါသည်-

၁။ ရင်းနှီးမြှုပ်နှံလိုသူ၏ -

(က) အမည် - ဦးထွန်းမြင့်နိုင်
(ခ) အဖအမည် - ဦးလောစစ်ဟန်
(ဂ) နိုင်ငံသား၊အမျိုးသားမှတ်ပုံတင်အမှတ် - ၁၂/မရက(နိုင်) ၁၀၁၆၃၅
(ဃ) နေရပ်လိပ်စာ - ပဏ္ဍိတလမ်းနှင့် အင်စိန်လမ်းထောင့် (၈/၉)ရပ်ကွက်၊ လှိုင်မြို့နယ်၊ ရန်ကုန်မြို့။
(င) လူမျိုး၊ ဘာသာ - ကိုးကန့် ၊ ဗုဒ္ဓဘာသာ။
(စ) အဖွဲ့အစည်းအမည် - အေးရှားဝါး(လ်)ကုမ္ပဏီလီမိတက်။
(ဆ) လုပ်ငန်းအမျိုးအစား - ဆောက်လုပ်ရေးလုပ်ငန်း။
(ဇ) အဖွဲ့အစည်းတည်ရှိရာအရပ် - အမှတ်(၆၁-၆၂)ဗဟိုစည်ရိပ်သာ၊ဝါးတန်းလမ်း၊ လမ်းမတော်မြို့နယ်၊ ရန်ကုန်မြို့။

၂။ ဖက်စပ်ပြုလုပ်၍ ရင်းနှီးမြှုပ်နှံလိုပါက ဖက်စပ်ပြုလုပ်မည့် သူများ၏- - မရှိပါ။

(က) အမည် -
(ခ) အဖအမည် -
(ဂ) နိုင်ငံသား၊အမျိုးသာမှတ်ပုံတင်အမှတ် -
(ဃ) နေရပ်လိပ်စာ -
(င) လူမျိုး၊ ဘာသာ -
(စ) အဖွဲ့အစည်းအမည် -
(ဆ) လုပ်ငန်းအမျိုးအစား -
(ဇ) အဖွဲ့အစည်းတည်ရှိရာအရပ် -

(နှစ်ဦး သို့မဟုတ် အဖွဲ့အစည်း ၂၃ ထက်ပိုပါက သီးခြားစာရွက်တွင် ဖော်ပြ ပူးတွဲရန်)

၃။ ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့်လုပ်ငန်းအမျိုးအစား -

(က) ကုန်ထုတ်လုပ်မှုလုပ်ငန်း -

(ခ) ဝန်ဆောင်မှုလုပ်ငန်း - BOT စံနစ်ဖြင့် ကျောက်မဲ-လားရှိုး ( မိုင်တိုင် ၁၂၃/၀ မှ ၁၇၂/၀ ထိ)(၄၉-မိုင်)လမ်းအပိုင်း လမ်း-တံတားများပြုခ ကောက်ခံသည့်လုပ်ငန်း။

၄။ လုပ်ကိုင်မည့်စီးပွားရေးပုံစံ -

(က) နိုင်ငံသားနှင့် နိုင်ငံသားတို့က အစုစပ်လုပ်ကိုင်ဆောင်ရွက်ခြင်း - လီမိတက်ကုမ္ပဏီ( နောက်ဆက်တွဲ - ၁ )

(ခ) အဖွဲ့အစည်းနှင့်နိုင်ငံသားတို့က ဖက်စပ်လုပ်ကိုင်ဆောင်ရွက်ခြင်း -

(ဂ) အဖွဲ့အစည်းနှင့်အခြားအဖွဲ့အစည်းတို့က ဖက်စပ်လုပ်ကိုင် ဆောင်ရွက်ခြင်း -

၅။ ဖွဲ့စည်းထားပြီးဖြစ်သည့် သို့မဟုတ် ဖွဲ့စည်းမည့် စီးပွားရေးအဖွဲ့အစည်း ပုံသဏ္ဌာန် -

(က) တစ်ဦးတည်းပိုင် -

(ခ) ဖက်စပ်၊အစုစပ်လုပ်ငန်း -

(ဂ) လီမိတက်ကုမ္ပဏီ - အေးရှားဝါး(လ်)ကုမ္ပဏီလီမိတက် ( နောက်ဆက်တွဲ - ၁ )

(ဃ) သမဝါယမအသင်း -

(အများနှင့်မသက်ဆိုင်သည့် ကုမ္ပဏီ/ အများပိုင်ကုမ္ပဏီဟု ဖော်ပြ၍ ထည့်ဝင်မည့် မတည်ငွေရင်း အမျိုးအစား၊ စီမံခန့်ခွဲသူ၊စီမံခန့်ခွဲမည့်သူများ၏အမည်၊နေရပ်လိပ်စာများနှင့်ရာထူးတို့ကို ပူးတွဲတင်ပြရန်)

၆။ ဖက်စပ် ၊ အစုစပ်လုပ်ငန်းဖြစ်ပါက -

(က) အစုစပ်တို့က ထည့်ဝင်မည့်အစုငွေ အမျိုးအစားနှင့်ပမာဏ- ------------------------------------------------------------------------

(ခ) အကျိုးအမြတ် ခွဲဝေမည့် အမျိုးအစား ----------------------------------------

(ဂ) အစုဝင်များ၏ တာဝန်နှင့် လုပ်ပိုင်ခွင့်များ ----------------------------------------

( နေရာမလုံလောက်က သီးခြားစာရွက်ဖြင့်ဖော်ပြရန် )။

၇။ လီမိတက်ကုမ္ပဏီဖြစ်ပါက -

(က) ခွင့်ပြု မတည်ငွေရင်း - ကျပ်-၁,၀၀၀,၀၀၀,၀၀၀ (ကျပ်သန်း တစ်ထောင် တိတိ)

(ခ) အစုရှယ်ယာ အမျိုးအစား - တစ်စုလျှင်ကျပ်-၁၀,၀၀၀ (ကျပ်တစ်သောင်းတိတိ) တန် သာမန်အရှယ်ယာ ၁၀၀,၀၀၀/- ( တစ်သိန်း)

(ဂ) အစုရှယ်ယာဝင်များကထည့်ဝင်မည့်အစုရှယ်ယာပမာဏ - ကျပ်-၂၈၅,၄၀၀,၀၀၀(ကျပ် နှစ်ရာရှစ်ဆယ်ငါးသန်း၊ လေးသိန်း တိတိ) အစုရှယ်ယာပမာဏ တစ်စုလျှင် ကျပ်(၁၀၀,၀၀၀)တန် အစုရှယ်ယာ(၂၈၅၄)။

( ခွင့်ပြုမိန့်ရရှိပြီပါက ခွင့်ပြုမတည်ငွေရင်း Authourised Capital ကို တိုးမြှင့်သွား မည်ဖြစ်ပါကြောင်း ဝန်ခံကတိပြုအပ်ပါသည်။)

၈။ ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့် အဖွဲ့အစည်းနှင့် သက်ဆိုင်သော အချက်အလက်များ -

(က) မတည်ရင်းနှီးငွေပမာဏ ( ယခုအဆိုပြုလုပ်ငန်းအတွက်)

( ကျပ်ထောင်ပေါင်း)

| | ကိုယ် ပိုင် (သုံး စွဲ ပြီး) | (သုံး စွဲ ရန်) | ချေး ငွေ | စု စု ပေါင်း |
|---|---|---|---|---|
| (၁) ငွေပမာဏ ( Exhibit- III ) - (နိုင်ငံခြားမတည်ငွေပါဝင်က သီးခြားဖော်ပြရန် | ၂၀၇၃၃၅၀.၀ | ၄၁၈၅၆၅၀.၀ | ၅၀၀၀၀၀.၀ | ၆၇၅၉၀၀၀.၀ |
| (၂) စက်ပစ္စည်းကရိယာများတန်ဖိုး-ပမာဏ | - | - | - | - |
| (၃) အဆောက်အဦးနှင့်မြေ | | | | |
| (၄) ပရိဘောဂနှင့်လုပ်ငန်းသုံးပစ္စည်းတန်ဖိုးပမာဏ( Exhibit-III ) | ၁၄၁၇၂.၀ | - | - | ၁၄၁၇၂.၀ |
| (၅) ကုန်ကြမ်းပစ္စည်းတန်ဖိုးပမာဏ-(USD-1746233/ နှင့် ညီမျှသောငွေပမာဏ)(Exhibit.-III) | ၉၃၇.၄ | ၉,၅၄၀.၀ | - | ၁၀၄၇၇.၄ |
| စုစုပေါင်း ထည့်ဝင်ရင်းနှီးငွေ | ၂၀၈၈၄၅၉.၄ | ၄၁၉၅၁၉၀.၀ | ၅၀၀၀၀၀.၀ | ၆၇၈၃၆၄၉.၄ |

မှတ်ချက်။ (၁) ပြည်တွင်းသုံးငွေ ကျပ်သန်း(၅၀၀)ကို တစ်နှစ်လျှင်(၁၆ %)အတိုးဖြင့် MEB ၏ စက်မှုလက်မှုငွေချေးဌာနနှင့် ပြည်တွင်းဘဏ် တစ်ခုခုမှ ချေးယူ၍ ရင်းနှီးမြှုပ်နှံပါမည်။

(၂) Exchange Rate USD 1 = 6 Ks

(၃) ကျပ် ၁.၀၄၇၇ သန်းနှင့် ညီမျှသော (USD- 1,746,233)တန်ဖိုးရှိ ကုန်ကြမ်းပစ္စည်းနှင့် အလားတူပစ္စည်းတွင် (USD 156,233)ကို သုံးစွဲပြီး ဖြစ်ပြီး၊ ကျန်(USD 1,590,000.00 )ကို စီးပွား/ကူးသန်းဝန်ကြီးဌာနသို့ Normal Trade ဖြင့် သွင်းကုန်လိုင်စင် ခွင့်ပြုချက် ရယူပြီးမှ တင်သွင်းပါမည်။

(ခ) နိုင်ငံခြားမှတင်သွင်းရန် လိုအပ်သည့်

| | ကျပ်(ထောင်ပေါင်း) (သုံးစွဲပြီး) | (သုံးစွဲရန်) | အမေရိကန်ဒေါ်လာ (ထောင်ပေါင်း) |
|---|---|---|---|
| (၁) စက်ပစ္စည်းများ၊ စက်ကိရိယာများ စသည့် ပစ္စည်းတို့၏တန်ဖိုးပမာဏ | | | - |
| (၂) ကုန်ကြမ်းပစ္စည်းနှင့်အခြား အလားတူပစ္စည်းများ၏တန်ဖိုး ( Exhibit III ) | ၉၃၇.၄ | ၉၅၄၀.၀ | ၁၇၄၆.၂၃၃ |
| (၃) ကျွမ်းကျင်မှု နည်းပညာများ၏ တန်ဖိုး | | - | - |
| စုစုပေါင်း | ၉၃၇.၄ | ၉၅၄၀.၀ | ၁၇၄၆.၂၃၃ |

မှတ်ချက်။ ကျပ် ၁.၀၄၇၇ သန်းနှင့် ညီမျှသော USD- 1,746,233/- တန်ဖိုးရှိ ကုန်ကြမ်းပစ္စည်းနှင့် အလားတူပစ္စည်းတွင် USD 156,233/ ကို သုံးစွဲပြီး ဖြစ်ပြီး၊ ကျန် USD 1,590,000/ ကို ခွင့်ပြုမိန့်ရရှိပြီးနောက် စီးပွား/ကူးသန်းဝန်ကြီးဌာနသို့ Normal Trade ဖြင့် သွင်းကုန်လိုင်စင် လျှောက်ထားပြီး၊ သွင်းကုန်လိုင်စင် ခွင့်ပြုချက် ရရှိပြီးမှ ပြည်ပမှ တင်သွင်းပါမည်။

(ဂ) တည်ဆောက်မှုကာလ - (၃၆) လအတွင်း၊

(ဃ) ပဏာမစမ်းသပ်လည်ပတ်မှုပြုလုပ်မည့်ကာလ - (၆) လအတွင်း၊

(င) တည်ဆောက်မှုစတင်မည့်အချိန် - ခွင့်ပြုမိန့် ရရှိသည့်နေ့မှ စတင်ဆောင်ရွက်ပါမည်။

၉။ ဆောင်ရွက်မည့်စီးပွားရေးလုပ်ငန်းနှင့်သက်ဆိုင်သော အချက်အလက်များ

(က) လုပ်ငန်းအမျိုးအစား (ကုန်ထုတ်လုပ်မှု၊ဝန်ဆောင်မှုစသည်ဖြင့် ဖော်ပြရန်) - BOT စံနစ်ဖြင့် ကျောက်မဲ-လားရှိုး ( မိုင်တိုင် ၁၂၃/၀ မှ ၁၇၂/၀ ထိ)(၄၉-မိုင်)လမ်းအပိုင်း လမ်း-တံတားများပြုခ ကောက်ခံသည့်လုပ်ငန်း။

(ခ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်ဒေသများ - ကျောက်မဲ-သီပေါ-လားရှိုးဒေသ ။

(ဂ) ဆောင်ရွက်ပုံနည်းစံနစ် -

(ဃ) နှစ်စဉ်စက်သုံးဆီလိုအပ်ချက်

| အမျိုးအမည် | အရေအတွက် |
|---|---|
| ၁။ ဒီဇယ်ဆီ | - ဂါလံ ( ၂၀၀၀၀၀ ) |
| ၂။ ဓါတ်ဆီ | - ဂါလံ ( ၉၀၀၀၀ ) |
| ၃။ စက်ဆီ၊ချောဆီ | - ဂါလံ ( ၆၀၀၀ ) |

(င) နှစ်စဉ်လျှပ်စစ်ဓါတ်အား လိုအပ်ချက်အားအသုံးပြုမှု

၁။ လျှပ်စစ်ဓါတ်အား -

၂။ ဓါတ်ဆီ၊ဒီဇယ် အင်ဂျင်စက်အင်အား - (၅၀၀)ကေဗွီအေ (၂)လုံး၊

၃။ ဘွိုင်လာအသုံးပြု အင်ဂျင်စက်အင်အား - -

၄။ သဘာဝဓါတ်ငွေ့သုံးအင်အား - -

၅။ ပေးပို့သည့်အခြားအား - -

(ရေအား၊လေအား စသည်များ)

(စ) နှစ်စဉ်ရေလိုအပ်ချက်

(နေ့စဉ် ရေလိုအပ်ချက်ရှိလျှင် ဖော်ပြရန်)

၁။ တစ်နေ့ ရေလိုအပ်ချက် - ဂါလံ ( ၁၀၀၀ )

၂။ တစ်နှစ် ရေလိုအပ်ချက် - ဂါလံ ( ၄ သန်း )

(ဆ) နှစ်စဉ်လုပ်ငန်းပစ္စည်း၊ကုန်ကြမ်းလိုအပ်ချက်

| | အမျိုးအမည် | ရေတွက်ပုံ | အရေအတွက် | တန်ဖိုး |
|---|---|---|---|---|
| ၁။ အဓိကကုန်ကြမ်း | | | | |
| (၁)------------ | ------- | | --------- | ------- |
| (၂)------------ | ------- | | --------- | ------- |
| ၂။ အထောက်အကူကုန်ကြမ်း | | | | |
| (၁)------------ | ------- | | --------- | ------ |
| (၂)------------ | ------- | | --------- | ------ |
| ၃။ ဓါတ်ဆီသုံး၊ ဓါတ်ငွေ့များ | | | | |
| (၁)------------ | ------- | | --------- | ------ |
| (၂)------------ | ------- | | --------- | ------ |

(ဇ) အဆောက်အအုံလိုအပ်ချက် -

(ဈ) မြေနေရာအမျိုးအစား နှင့်အကျယ်အဝန်းလိုအပ်ချက် - ကျောက်မဲ-လားရှိုး ( မိုင်တိုင် ၁၂၃/၀ မှ ၁၇၂/၀ ထိ)(၄၉-မိုင်)လမ်းအပိုင်း။ ( လမ်းနယ်နိမိတ် အကျယ် ပေ-၂၀၀)

(ည) ခန့်မှန်းထုတ်လုပ်မည့် ကုန်ပစ္စည်း၊ဆောင်ရွက်မည့်ဝန်ဆောင်မှု (နောက်ဆက်တွဲ ဇယား-၅)

| အမျိုးအမည် | ရေတွက်ပုံ | အရေအတွက် | တန်ဖိုး |
|---|---|---|---|
| --------- | ------ | --------- | ---- |

(ဋ) ရောင်းချမည့်နည်းစနစ် - BOT စနစ်ဖြင့် လမ်း-တံတားများ တည်ဆောက်၍ လမ်းအသုံးပြုခ ကောက်ခံသည့်လုပ်ငန်း။

၁၀။ နှစ်စဉ် ကုန်ထုတ်လုပ်မှု၊ဝန်ဆောင်မှုနှင့်စပ်လျဉ်းသော အချက်အလက်များ- ခန့်မှန်းခြေ

| | | ကျပ်ငွေ | နိုင်ငံခြားသုံးငွေ |
|---|---|---|---|
| (က) | လုပ်ငန်းလည်ပတ်ရန် လိုအပ်မည့် ကျပ်ငွေ | - နောက်ဆက်တွဲ - ၇ ၊ ၈ | |
| (ခ) | လိုအပ်မည့် နိုင်ငံခြားသုံးငွေ | - နောက်ဆက်တွဲ - ၈ | |
| (ဂ) | ရရှိမည့် နိုင်ငံခြားသုံးငွေပမာဏ | - နောက်ဆက်တွဲ - ၅(ခ) | |
| (ဃ) | ပြည်ပသို့ တင်ပို့ရောင်းချနိုင်မည့် ကုန်ပစ္စည်း၊ဝန်ဆောင်မှုတန်ဖိုးပမာဏ | - | |
| (င) | နှစ်စဉ် ပြည်တွင်း၌ ရောင်းချမည့် ကုန်ပစ္စည်း၊ဝန်ဆောင်မှုတန်ဖိုးပမာဏ | - နောက်ဆက်တွဲ - ၅(ခ) | |

၁၁။ ဆောင်ရွက်မည့် စီးပွားရေးလုပ်ငန်းတွင် လိုအပ်မည့်အမှုထမ်းများစာရင်း

(က) ပြည်တွင်းမှ လိုအပ်မည့်အမှုထမ်း - နောက်ဆက်တွဲ - ၆

(ခ) နိုင်ငံခြားမှ လိုအပ်မည့် ကျွမ်းကျင်သူနှင့် အတတ်ပညာရှင်များ-

| ကျွမ်းကျင်မှု အမျိုးအစား | ဦးရေ | ခန့်ထားမည့်အချိန်ကာလ |
|---|---|---|
| - | - | - |

၁၂။ စီးပွားရေးတွက်ခြေကိုက်မှုနှင့် စပ်လျဉ်းသော အချက်အလက်များ -

| | | ကျပ်ငွေ | နိုင်ငံခြားငွေ |
|---|---|---|---|
| (က) | နှစ်စဉ် ဝင်ငွေရရှိမှု | - နောက်ဆက်တွဲ - (၅) (၇) | |
| (ခ) | နှစ်စဉ် လုပ်ငန်းကုန်ကျစရိတ် | - နောက်ဆက်တွဲ - (၇) | |
| (ဂ) | နှစ်စဉ် အသားတင်အမြတ် | - နောက်ဆက်တွဲ - (၇) | |
| (ဃ) | နှစ်အလိုက် ရင်းနှီးမြှုပ်နှံမှု | - နောက်ဆက်တွဲ - (၈)(၉) | |
| (င) | နှစ်အလိုက် ချေးငွေ ပြန်ဆပ်မှု | - နောက်ဆက်တွဲ - (၁၁) | |
| (စ) | အရင်းကြေကာလ | - နောက်ဆက်တွဲ - | |
| (ဆ) | အခြားအကျိုးအမြတ်များ | - နောက်ဆက်တွဲ - (၇)(၈)(၉) | |
| (ဆ) | အလုပ်အကိုင်သစ်များ ပေါ်ပေါက်လာမည့် အခြေအနေ | - အလုပ်အကိုင်နေရာသစ်( ၅၇၁)ရာ သစ်ပေါ် ထွက်လာစေမည်ဖြစ်ပါသည်။ | |

၁၃။ ဆောင်ရွက်ရန် အဆိုပြုချက်နှင့် စပ်လျဉ်းသည့် အထောက်အထားများ အဆိုပြု တင်ပြသည့် ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းအတွက် အောက်ဖော်ပြပါ အထောက်အထားများကို ပူးတွဲ တင်ပြအပ်ပါသည် -

(က) ပဋိညာဉ်စာချုပ်(မူကြမ်း) (လိုအပ်သည့် ကိစ္စအတွက်)
(ခ) လုပ်ငန်းပိုင်နှင့် ငွေရေးကြေးရေးဆိုင်ရာ စာရင်းဇယားနှင့်အထောက်အထားများ
(ဂ) လက်ရှိဖွဲ့စည်းပြီး သင်းဖွဲ့မှတ်တမ်းနှင့်သင်းဖွဲ့စည်းမျဉ်း

လေး စား စွာ ဖြင့်

လက်မှတ်။
အမည် ။ ဦးထွန်းမြင့်နိုင်
ရာထူး ။ မန်နေးဂျင်းဒါရိုက်တာ
အေးရှားဝါး(လ်)ကုမ္ပဏီလီမိတက်။

**PROPOSAL FORM (1) PR-ITEM 4(a), 5 (c)**
**LIST OF EXECUTIVES DIRECTOR OF ASIA WORLD COMPANY LIMITED**

*Exhibit No. 1*

| Sr. No. | NAME | Citizenship & N.R.C No. Passport No. | Designation | Address | Amount of Capital | % |
|---|---|---|---|---|---|---|
| | | | | | | 100 |
| ၁။ | ဦးထွန်းမြင့်နိုင် | မြန်မာ ၁၂/မဂရက(နိုင်) ၁၀၁၆၃၅ | အုပ်ချုပ်မှုဒါရိုက်တာ | ပဏ္ဍိတလမ်းနှင့် အင်စိန်လမ်းထောင့် (၈/၉)ရပ်ကွက်၊ လှိုင်မြို့နယ်။ | | |
| ၂။ | ဦးမောင်ကျေး | မြန်မာ ၁၂/လသန(နိုင်) ၀၁၈၁၇၄ | ဒါရိုက်တာ | အမှတ်(၃၆) ရေကျော်လမ်း (၉)ရပ်ကွက်၊ ပုဇွန်တောင်မြို့နယ်၊ ရန်ကုန်မြို့။ | | |
| ၃။ | ဦးသန်းမြင့် | မြန်မာ ၁၂/လမတ(နိုင်) ၀၂၇၇၇၂ | ဒါရိုက်တာ | အမှတ်(၆၂) ရွှေတောင်တန်းလမ်း လမ်းမတော်မြို့နယ် ရန်ကုန်မြို့။ | | |
| | | | | စုစုပေါင်းရင်းနှီးငွေ | ကျပ်(၁၀၀၀) သန်း | 100% |

**ASIA WORLD CO., LTD**
**KYAUKME - LASHO ( Mile 123/0 to 1720/0 )**
**CONSTRUCTION COST OF PROJECT**

**Exhibit III**

| Sr No | Particular | Cost in Ks. Amount | Cost in USD Amount | | Total Amount in Ks. |
|---|---|---|---|---|---|
| | | | USD | Equiv in Ks. | |
| 1 | 1" x 2 " Overlay cost ( USD-106020 for Bituman 530 mts ) | 155,951,596 | 106,000 | 636,000 | 156,587,596 |
| 2 | Water Bound ( USD-13400 for Bituman 67 mts ) | 20,481,250 | 13,400 | 80,400 | 20,481,250<br>80,400 |
| | Heaving Patching ( USD-13400 for Bituman 67 mts ) | 20,481,250 | 13,400 | 80,400 | 20,481,250<br>80,400 |
| 4 | Bridge & Culvert Construction<br>(a )25 ' Span Bridge ( M 170/0-1)<br>(b) Box Culvert ( 4- No) | 5,000,000<br>3,200,000 | | | 5,000,000<br>3,200,000 |
| 5 | Main Bridge Construction<br>(a) Sin In RCC Bridge<br>(b) Thi Paw Bailey Bridge | 300,000,000<br>1,500,000,000 | 156,233 | 937,401 | 300,937,401<br>1,500,000,000 |
| | Road Construction ( AC ) ( USD-1.3 Million for Bituman 7286 mts ) | 2,953,885,282 | 1,457,200 | 8,743,200 | 2,962,628,482 |
| 7 | Furniture and inter - industy use goods others | 14,172,000 | | | 14,172,000 |
| 8 | Cost of Acaquisition of The Raos | 1,800,000,000 | | | 1,800,000,000 |
| | **TOTAL** | **6,773,171,378** | **1,746,233** | **10,477,401** | **6,783,648,779** |
| | **GRAND TOTAL Kyats. ( Say In Million )** | | | | **6,783.649** |

ASIA WORLD CO., LTD
KYAUKME - LASHO ( Mile 123/0 to 1720/0 )
CONSTRUCTION COST OF PROJECT
MATERIALS REQUIREMENT

Exhibit III (A)

| Sr No | Particular | Cost in USD Amount |
|---|---|---|
| 1 | Bituman 530 mts for 1' x 2 " Overlay cost | 106,000 |
| 2 | Bituman 67 mts for Water Bound | 13,400 |
| 3 | Bituman 67 mts for Heaving Patching | 13,400 |
| 4 | Bituman 7286 mts for Road Construction (AC) | 1,457,200 |
| | **TOTAL ( USD)** | **1,590,000** |

Exhibit No. IV(2)

## SERVICE TO BE RENDERED
## TOLL FEES INCOME

| Year | Toll Fees (Road) per Motor Car ( Kyat ) | Number of Gates | Total Number of Cars per Day | Road Income in Kyats ( 365 running days ) | |
|---|---|---|---|---|---|
| | | | | Income per Motor Car per Year ( 2 x3x 365 ) | Total Income per Year ( in Thousand ) ( 4 x5 ) |
| 1 | 2 | 3 | 4 | 5 | 6 |
| 1 | 1091 | 2 | 616 | 796,430 | 490,601 |
| 2 | 1091 | 2 | 647 | 796,430 | 515,290 |
| 3 | 1091 | 2 | 679 | 796,430 | 540,776 |
| 4 | 1091 | 2 | 713 | 796,430 | 567,855 |
| 5 | 1091 | 2 | 749 | 796,430 | 596,526 |
| 6 | 1091 | 2 | 786 | 796,430 | 625,994 |
| 7 | 1091 | 2 | 825 | 796,430 | 657,055 |
| 8 | 1091 | 2 | 866 | 796,430 | 689,708 |
| 9 | 1091 | 2 | 909 | 796,430 | 723,955 |
| 10 | 1091 | 2 | 954 | 796,430 | 759,794 |
| 11 | 1091 | 2 | 1002 | 796,430 | 798,023 |
| 12 | 1091 | 2 | 1052 | 796,430 | 837,844 |
| 13 | 1091 | 2 | 1105 | 796,430 | 880,055 |
| 14 | 1091 | 2 | 1160 | 796,430 | 923,859 |
| 15 | 1091 | 2 | 1218 | 796,430 | 970,052 |
| 16 | 1091 | 2 | 1279 | 796,430 | 1,018,634 |
| 17 | 1091 | 2 | 1343 | 796,430 | 1,069,605 |
| 18 | 1091 | 2 | 1410 | 796,430 | 1,122,966 |
| 19 | 1091 | 2 | 1481 | 796,430 | 1,179,513 |
| 20 | 1091 | 2 | 1555 | 796,430 | 1,238,449 |
| 21 | 1091 | 2 | 1633 | 796,430 | 1,300,570 |
| 22 | 1091 | 2 | 1715 | 796,430 | 1,365,877 |
| 23 | 1091 | 2 | 1801 | 796,430 | 1,434,370 |
| 24 | 1091 | 2 | 1891 | 796,430 | 1,506,049 |
| 25 | 1091 | 2 | 1986 | 796,430 | 1,581,710 |
| 26 | 1091 | 2 | 2085 | 796,430 | 1,660,557 |
| 27 | 1091 | 2 | 2189 | 796,430 | 1,743,385 |
| 28 | 1091 | 2 | 2298 | 796,430 | 1,830,196 |
| 29 | 1091 | 2 | 2413 | 796,430 | 1,921,786 |
| 30 | 1091 | 2 | 2534 | 796,430 | 2,018,154 |
| Total | | | | | **32,569,208** |

ကျောက်မဲ-လားရှိုး လမ်းမကြီး၏ ( မိုင်တိုင် -၁၂၃/၀ မှ ၁၇၂/၀ အထိ)

( ၄၉ - မိုင် ) လမ်းအပိုင်း

ပြုပြင်ဖေါက်လုပ် လုပ်ငန်းလုပ်ကိုင်ရေးစီမံကိန်း

PROPOSAL FROM (1) RE - ITEM 11 (a) , (b)

LIST OF PERSONNEL REQUIREMENT

Exhibit No(VI)

| Sr No. | Description | No. Of Requirement |
|---|---|---|
| | LOCAL PERSONNEL | |
| 1 | Project Director | 1 |
| 2 | Consultant | 1 |
| 3 | Project Manager | 1 |
| 4 | Project Engineer | 1 |
| 5 | Quality Engineer | 2 |
| 6 | Road Engineer | 1 |
| 7 | Bridge Engineer | 1 |
| 8 | Plant & Mechanical Engineer | 1 |
| 9 | Aggregate Production Engineer | 1 |
| 10 | Admin Manager | 1 |
| 11 | Purchase Manager | 2 |
| 12 | Toll Gate Manager | 2 |
| 13 | Construction Asst: Engineer | 18 |
| 14 | Bridge Asst: Engineer | 6 |
| 15 | Maintenance Asst: Engineer | 10 |
| 16 | Plant & Mechanical Asst : Engineer | 10 |
| 17 | Aggregate Production Asst: Engineer | 10 |
| 18 | Driver | 30 |
| 19 | Store Keeper | 10 |
| 20 | Toll Staff | 45 |
| 21 | General Staff | 30 |
| 22 | Motor Transport Officer | 10 |
| 23 | Mechanic | 30 |
| **TOTAL** | | **224** |

Exhibit - VII ( 1 )

## PROPOSAL FORM (1)
## BUDGETED PROFIT AND LOSS

( Kyats in Thousand )

| Sr.No | | Particulars | Year 1 | Year 2 | Year 3 | Year 4 | Year 5 | Year 6 | Year 7 | Year 8 | Year 9 | Year 10 |
|---|---|---|---|---|---|---|---|---|---|---|---|---|
| 1 | | 2 | 3 | 4 | 5 | 6 | 7 | 8 | 9 | 10 | 11 | 12 |
| 1 | | **INCOME** | | | | | | | | | | |
| | 1 | Income from Toll Fees | 490601 | 515290 | 540776 | 567855 | 596526 | 625994 | 657055 | 689708 | 723955 | 759794 |
| | | Sub Total | 490601 | 515290 | 540776 | 567855 | 596526 | 625994 | 657055 | 689708 | 723955 | 759794 |
| 2 | | **DIRECT COST** | | | | | | | | | | |
| | 1 | Cost of Road Maintenance | 100000 | 105000 | 110250 | 115763 | 121551 | 127629 | 134010 | 140711 | 147747 | 155134 |
| | 2 | Operating Cost | 10000 | 11000 | 12100 | 13310 | 14641 | 16105 | 17716 | 19488 | 21437 | 23581 |
| | 3 | Contribution to State | | | | 56786 | 59653 | 62599 | 65706 | 68971 | 72396 | 75979 |
| | | Sub Total | 110000 | 116000 | 122350 | 185859 | 195845 | 206333 | 217432 | 229170 | 241580 | 254694 |
| 3 | | Gross Profit | 380601 | 399290 | 418426 | 381996 | 400681 | 419661 | 439623 | 460538 | 482375 | 505100 |
| 4 | | **EXPENDITURE** | | | | | | | | | | |
| | 1 | Salary & Wages | 4000 | 4400 | 4840 | 5324 | 5856 | 6442 | 7086 | 7795 | 8575 | 9433 |
| | 2 | Electricity & Power | 2500 | 2750 | 3025 | 3328 | 3661 | 4027 | 4430 | 4873 | 5360 | 5896 |
| | 3 | Administrative Expenses | 1200 | 1320 | 1452 | 1597 | 1757 | 1933 | 2126 | 2339 | 2573 | 2830 |
| | 4 | Other Expenditures | 1000 | 1100 | 1210 | 1331 | 1464 | 1610 | 1771 | 1948 | 2143 | 2357 |
| | 5 | Interest on Loan | 80000 | 80000 | 80000 | 72000 | 64000 | 56000 | 48000 | 40000 | 32000 | 24000 |
| | 6 | Depreciation | 226122 | 226122 | 226122 | 226122 | 226122 | 226122 | 226122 | 226122 | 226122 | 226122 |
| | | Sub Total | 314822 | 315692 | 316649 | 309702 | 302860 | 296134 | 289535 | 283077 | 276773 | 270638 |
| 5 | | **Net Profit ( Before Tax )** | 65779 | 83598 | 101777 | 72294 | 97821 | 123527 | 150088 | 177461 | 205602 | 234462 |
| 6 | | Income Tax ( 30% ) | 19734 | 25079 | 30533 | 21688 | 29346 | 37058 | 45026 | 53238 | 61681 | 70339 |
| 7 | | **Total Net Profit** | 46,045 | 58,519 | 71,244 | 50,606 | 68,475 | 86469 | 105062 | 124223 | 143921 | 164123 |

Note: ( 1 ) Contribution to State is calculated at 10% of Annual Income for year 4 to 13,20% for year 14 to 23, and 30% for year24 to 30 . The first 3 years is exempted from payment of Contribution.
( 2 ) The annual depreciation is calculated by using Straight Line Method .

Exhibit - VII ( 2 )

## PROPOSAL FORM (1)
## BUDGETED PROFIT AND LOSS

( Kyats in Thousand )

| Sr.No | | Particulars | Year 11 | Year 12 | Year 13 | Year 14 | Year 15 | Year 16 | Year 17 | Year 18 | Year 19 | Year 20 |
|---|---|---|---|---|---|---|---|---|---|---|---|---|
| 1 | | 2 | 13 | 14 | 15 | 16 | 17 | 18 | 19 | 20 | 21 | 22 |
| 1 | | **INCOME** | | | | | | | | | | |
| | 1 | Income from Toll Fees | 798023 | 837844 | 880055 | 923859 | 970052 | 1018634 | 1069605 | 1122966 | 1179513 | 1238449 |
| | | Sub Total | 798023 | 837844 | 880055 | 923859 | 970052 | 1018634 | 1069605 | 1122966 | 1179513 | 1238449 |
| 2 | | **DIRECT COST** | | | | | | | | | | |
| | 1 | Cost of Road Maintenance | 162891 | 171036 | 179588 | 188567 | 197995 | 207895 | 218290 | 229205 | 240665 | 252698 |
| | 2 | Operating Cost | 25939 | 28533 | 31386 | 34525 | 37978 | 41776 | 45954 | 50549 | 55604 | 61164 |
| | 3 | Contribution to State | 79802 | 83784 | 88006 | 184772 | 194010 | 203727 | 213921 | 224593 | 235903 | 247690 |
| | | Sub Total | 268632 | 283353 | 298980 | 407864 | 429983 | 453398 | 478165 | 504347 | 532172 | 561552 |
| 3 | | Gross Profit | 529391 | 554491 | 581075 | 515995 | 540069 | 565236 | 591440 | 618619 | 647341 | 676897 |
| 4 | | **EXPENDITURE** | | | | | | | | | | |
| | 1 | Salary & Wages | 10376 | 11414 | 12555 | 13811 | 15192 | 16711 | 18382 | 20220 | 22242 | 24466 |
| | 2 | Electricity & Power | 6486 | 7135 | 7849 | 8634 | 9497 | 10447 | 11492 | 12641 | 13905 | 15296 |
| | 3 | Administrative Expenses | 3113 | 3424 | 3766 | 4143 | 4557 | 5013 | 5514 | 6065 | 6672 | 7339 |
| | 4 | Other Expenditures | 2593 | 2852 | 3137 | 3451 | 3796 | 4176 | 4594 | 5053 | 5558 | 6114 |
| | 5 | Interest on Loan | 16000 | 7500 | 0 | | | | | | | |
| | 6 | Depreciation | 226122 | 226122 | 226122 | 226122 | 226122 | 226122 | 226122 | 226122 | 226122 | 226122 |
| | | Sub Total | 264690 | 258447 | 253429 | 256161 | 259164 | 262469 | 266104 | 270101 | 274499 | 279337 |
| 5 | | **Net Profit ( Before Tax )** | 264701 | 296044 | 327646 | 259834 | 280905 | 302767 | 325336 | 348518 | 372842 | 397560 |
| 6 | | Income Tax ( 30% ) | 79410 | 88813 | 98294 | 77950 | 84272 | 90830 | 97601 | 104555 | 111853 | 119268 |
| 7 | | **Total Net Profit** | 185291 | 207231 | 229352 | 181884 | 196634 | 211937 | 227735 | 243963 | 260989 | 278292 |

Note: ( 1 ) Contribution to State is calculated at 10% of Annual Income for year 4 to 13,20% for year 14 to 23, and 30% for year24 to 30 . The first 3 years is exempted from payment of Contribution.
( 2 ) The annual depreciation is calculated by using Straight Line Method .

Exhibit - VII ( 3 )

PROPOSAL FORM (1)
BUDGETED PROFIT AND LOSS

( Kyats in Thousand )

| Sr.No | | Particulars | Year 21 | Year 22 | Year 23 | Year 24 | Year 25 | Year 26 | Year 27 | Year 28 | Year 29 | Year 30 | Total |
|---|---|---|---|---|---|---|---|---|---|---|---|---|---|
| 1 | | 2 | 23 | 24 | 25 | 26 | 27 | 28 | 29 | 30 | 31 | 32 | 53 |
| 1 | | **INCOME** | | | | | | | | | | | |
| | 1 | Income from Toll Fees | 1300570 | 1365877 | 1434370 | 1506049 | 1581710 | 1660557 | 1743385 | 1830196 | 1921786 | 2018154 | 32569208 |
| | | Sub Total | 1300570 | 1365877 | 1434370 | 1506049 | 1581710 | 1660557 | 1743385 | 1830196 | 1921786 | 2018154 | **32569208** |
| 2 | | **DIRECT COST** | | | | | | | | | | | |
| | 1 | Cost of Road Maintenance | 252698 | 252698 | 252698 | 252698 | 252698 | 252698 | 252698 | 252698 | 252698 | 252698 | 5833605 |
| | 2 | Operating Cost | 61164 | 61164 | 61164 | 61164 | 61164 | 61164 | 61164 | 61164 | 61164 | 61164 | 1184426 |
| | 3 | Contribution to State | 260114 | 273175 | 286874 | 451815 | 474513 | 498167 | 523016 | 549059 | 576536 | 605446 | 6717013 |
| | | Sub Total | 573976 | 587037 | 600736 | 765677 | 788375 | 812029 | 836878 | 862921 | 890398 | 919308 | 13735044 |
| 3 | | Gross Profit | 726594 | 778840 | 833634 | 740372 | 793335 | 848528 | 906507 | 967275 | 1031388 | 1098846 | 18834164 |
| 4 | | **EXPENDITURE** | | | | | | | | | | | |
| | 1 | Salary & Wages | 26913 | 29604 | 32564 | 35820 | 39402 | 43342 | 47676 | 52444 | 57688 | 63457 | 658030 |
| | 2 | Electricity & Power | 16826 | 18509 | 20360 | 22396 | 24636 | 27100 | 29810 | 32791 | 36070 | 39677 | 411407 |
| | 3 | Administrative Expenses | 8073 | 8880 | 9768 | 10745 | 11820 | 13002 | 14302 | 15732 | 17305 | 19036 | 197396 |
| | 4 | Other Expenditures | 6725 | 7398 | 8138 | 8952 | 9847 | 10832 | 11915 | 13107 | 14418 | 15860 | 164450 |
| | 5 | Interest on Loan | | | | | | | | | | | 599500 |
| | 6 | Depreciation | 226122 | 226122 | 226122 | 226122 | 226122 | 226122 | 226122 | 226122 | 226122 | 226111 | 6783649 |
| | | Sub Total | 284659 | 290513 | 296952 | 304035 | 311827 | 320398 | 329825 | 340196 | 351603 | 364141 | 8814432 |
| 5 | | **Net Profit ( Before Tax )** | 441935 | 488327 | 536682 | 436337 | 481508 | 528130 | 576682 | 627079 | 679785 | 734705 | 10019732 |
| 6 | | Income Tax ( 30% ) | 132581 | 146498 | 161005 | 130901 | 144452 | 158439 | 173005 | 188124 | 203936 | 220412 | 3005920 |
| 7 | | **Total Net Profit** | 309355 | 341829 | 375677 | 305436 | 337056 | 369691 | 403677 | 438955 | 475850 | 514294 | 7013812 |

Note: ( 1 ) Contribution to State is calculated at 10% of Annual Income for year 4 to 13,20% for year 14 to 23, and 30% for year24 to 30 . The first 3 years is exempted from payment of Contribution.
( 2 ) The annual depreciation is calculated by using Straight Line Method .

Exhibit No.VIII

PROPOSAL FORM ( 1 )
INVESTMENT / CAPITAL COST

( Kyat in Thousand )

| Sr. No | | Particulars | Equity | Loan | Total |
|---|---|---|---|---|---|
| 1 | | 2 | 3 | 4 | 5 |
| | | **Investment Type** | | | |
| | A | **Local Capital** | | | |
| I | | **Road Construction Cost** | | | |
| | 1 | -In Kyat | 2,650,800 | 500,000 | 3,150,800 |
| | 2 | -In US$ ( $ 1.59Mill x K 6) | 9,540 | | 9,540 |
| | 3 | Existing Road Cost | 1,814,172 | | 1,814,172 |
| II | | **Bridge & Culverts Construction Cost** | | | |
| | 1 | -In Kyat | 1,808,200 | | 1,808,200 |
| | 2 | -In USD ($ 156,233.43 x K6) ) | 937 | | 937 |
| Total Capital | | | 6,283,649 | 500,000 | 6,783,649 |

## ( THIPAW - LASHIO UNION HIGHWAY FROM MILE POST 123 /0 TO 172/0 )

Exhibit No.IX( 1 )

PROPOSAL FORM (1)
RECOUPMENT PERIOD

( Kyat in Thousand )

| Sr. No | | Particulars | | Year 1 | Year 2 | Year 3 | Year 4 | Year 5 | Year 6 | Year 7 | Year 8 | Year 9 | Year 10 |
|---|---|---|---|---|---|---|---|---|---|---|---|---|---|
| 1 | | 2 | 3 | 4 | 5 | 6 | 7 | 8 | 9 | 10 | 11 | 12 | 13 |
| 1 | | **Cash In Flow** | | | | | | | | | | | |
| | 1 | Profit ( Loss ) after Tax | | 46045 | 58519 | 71244 | 50606 | 68475 | 86469 | 105062 | 124223 | 143921 | 164123 |
| | 2 | Depreciation | | 226122 | 226122 | 226122 | 226122 | 226122 | 226122 | 226122 | 226122 | 226122 | 226122 |
| | | | | 272167 | 284641 | 297366 | 276728 | 294597 | 312591 | 331184 | 350345 | 370043 | 390245 |
| 2 | | **Cash Out Flow** | | | | | | | | | | | |
| | | **Investment** | | | | | | | | | | | |
| | 1 | Road Construction Cost | 2660340 | | | | | | | | | | |
| | 2 | Existing Road Cost | 1814172 | | | | | | | | | | |
| | 3 | Bridge & Culverts Construction | 1809137 | | | | | | | | | | |
| | 4 | Loan in Cash | 500000 | | | | | | | | | | |
| | | | 6783649 | | | | | | | | | | |
| 3 | | Net Cash Flow | 6783649 | 272167 | 284641 | 297366 | 276728 | 294597 | 312591 | 331184 | 350345 | 370043 | 390245 |
| 4 | | Opening Balance | | -6783649 | -6511482 | -6226841 | -5929475 | -5652747 | -5358151 | -5045560 | -4714376 | -4364032 | -3993988 |
| 5 | | Closing Balance | 6783649 | -6511482 | -6226841 | -5929475 | -5652747 | -5358151 | -5045560 | -4714376 | -4364032 | -3993988 | -3603743 |

Note : Recoupment period is 18 years and 3 month.

Year 1 to 18
Year 19 ( 110,741 /487,111)*12 month

( THIPAW - LASHIO UNION HIGHWAY FROM MILE POST 123 /0 TO 172/0 )

Exhibit No.IX( 2 )

PROPOSAL FORM (1)
RECOUPMENT PERIOD

( Kyat in Thousand )

| Sr. No | | Particulars | Year 11 | Year 12 | Year 13 | Year 14 | Year 15 | Year 16 | Year 17 | Year 18 | Year 19 | Year 20 |
|---|---|---|---|---|---|---|---|---|---|---|---|---|
| 1 | | 2 | 14 | 15 | 16 | 17 | 18 | 19 | 20 | 21 | 22 | 23 |
| 1 | | **Cash In Flow** | | | | | | | | | | |
| | 1 | Profit ( Loss ) after Tax | 185291 | 207231 | 229352 | 181884 | 196634 | 211937 | 227735 | 243963 | 260989 | 278292 |
| | 2 | Depreciation | 226122 | 226122 | 226122 | 226122 | 226122 | 226122 | 226122 | 226122 | 226122 | 226122 |
| | | | 411413 | 433353 | 455474 | 408006 | 422756 | 438059 | 453857 | 470085 | 487111 | 504414 |
| 2 | | **Cash Out Flow** | | | | | | | | | | |
| | | **Investment** | | | | | | | | | | |
| | 1 | Road Construction Cost | | | | | | | | | | |
| | 2 | Existing Road Cost | | | | | | | | | | |
| | 3 | Bridge & Culverts Construction | | | | | | | | | | |
| | 4 | Loan in Cash | | | | | | | | | | |
| 3 | | Net Cash Flow | 411413 | 433353 | 455474 | 408006 | 422756 | 438059 | 453857 | 470085 | 487111 | 504414 |
| 4 | | Opening Balance | -3603743 | -3192330 | -2758977 | -2303503 | -1895497 | -1472742 | -1034683 | -580826 | -110741 | 376370 |
| 5 | | Closing Balance | -3192330 | -2758977 | -2303503 | -1895497 | -1472742 | -1034683 | -580826 | -110741 | 376370 | 880784 |

Note : Recoupment period is 18 years and 3 month.

Year 1 to 18
Year 19 ( 110,741 /487,111)*12 month

( THIPAW - LASHIO UNION HIGHWAY FROM MILE POST 123 /0 TO 172/0 )

Exhibit - IX ( 3 )

PROPOSAL FORM (1)
RECOUPMENT PERIOD

( Kyat in Thousand )

| Sr. No | | Particulars | Year 21 | Year 22 | Year 23 | Year 24 | Year 25 | Year 26 | Year 27 | Year 28 | Year 29 | Year 30 |
|---|---|---|---|---|---|---|---|---|---|---|---|---|
| 1 | | 2 | 24 | 25 | 26 | 27 | 28 | 29 | 30 | 31 | 32 | 33 |
| 1 | | **Cash In Flow** | | | | | | | | | | |
| | 1 | Profit ( Loss ) after Tax | 309355 | 341829 | 375677 | 305436 | 337056 | 369691 | 403677 | 438955 | 475850 | 514294 |
| | 2 | Depreciation | 226122 | 226122 | 226122 | 226122 | 226122 | 226122 | 226122 | 226122 | 226122 | 226111 |
| | | | 535477 | 567951 | 601799 | 531558 | 563178 | 595813 | 629799 | 665077 | 701972 | 740405 |
| 2 | | **Cash Out Flow** | | | | | | | | | | |
| | | **Investment** | | | | | | | | | | |
| | 1 | Road Construction Cost | | | | | | | | | | |
| | 2 | Existing Road Cost | | | | | | | | | | |
| | 3 | Bridge & Culverts Construction | | | | | | | | | | |
| | 4 | Loan in Cash | | | | | | | | | | |
| 3 | | Net Cash Flow | 535477 | 567951 | 601799 | 531558 | 563178 | 595813 | 629799 | 665077 | 701972 | 740405 |
| 4 | | Opening Balance | 880784 | 1416261 | 1984212 | 2586011 | 3117569 | 3680747 | 4276560 | 4906359 | 5571436 | 6273408 |
| 5 | | Closing Balance | 1416261 | 1984212 | 2586011 | 3117569 | 3680747 | 4276560 | 4906359 | 5571436 | 6273408 | 7013812 |

Note : Recoupment period is 18 years and 3 month.

| | Kyats | Period |
|---|---|---|
| Year 1 to 18 | 6672908 | 18 Years |
| Year 19 ( 110,741 /487,111)*12 month | 110741 | 3 Month |
| | 6783649 | 18 Years and 3 Month |

Exhibit No.XI

PROPOSAL FORM ( 1 )

REPAYMENT OF LOAN

( Kyat in thousand )

| Year | Local Loan | Interest Rate ( % ) | Repayment of Loan | Interest | Total Payment | Balance of Loan |
|---|---|---|---|---|---|---|
| 1 | 2 | 3 | 4 | 5 | 6 | 7 |
| 1 | 500,000 | 16 | - | 80,000 | 80,000 | 500,000 |
| 2 | - | 16 | - | 80,000 | 80,000 | 500,000 |
| 3 | - | 16 | - | 80,000 | 80,000 | 500,000 |
| 4 | - | 16 | 50,000 | 72,000 | 122,000 | 450,000 |
| 5 | - | 16 | 50,000 | 64,000 | 114,000 | 400,000 |
| 6 | - | 16 | 50,000 | 56,000 | 106,000 | 350,000 |
| 7 | - | 16 | 50,000 | 48,000 | 98,000 | 300,000 |
| 8 | - | 16 | 50,000 | 40,000 | 90,000 | 250,000 |
| 9 | - | 16 | 50,000 | 32,000 | 82,000 | 200,000 |
| 10 | - | 16 | 50,000 | 24,000 | 74,000 | 150,000 |
| 11 | - | 16 | 50,000 | 16,000 | 66,000 | 100,000 |
| 12 | - | 16 | 50,000 | 7,500 | 57,500 | 50,000 |
| 13 | - | 16 | 50,000 | - | 50,000 | - |
| Total | | | 500,000 | 599,500 | 1,099,500 | - |

Exhibit No. XII

**PROPOSAL FORM (1)**

**INTERNAL RATE OF RETURN**

**( THIPAW - LASHIO UNION HIGHWAY FROM MILE POST 123 /0 TO 172/0 )**

( Kyat in Thousand )

| YEAR | INVESTMENT | NET INCOME | DEPRECIATION | TOTAL CASH IN FLOW | CASH FLOW | DCF | | DCF | |
|---|---|---|---|---|---|---|---|---|---|
| | | | | | | DF 4% | DCF | DF 5% | DCF |
| 1 | 2 | 3 | 4 | 5 | 6 | 7 | 8 | 9 | 10 |
| 0 | 6783649 | | | | (6,783,649) | 1.000 | (6,783,649) | 1.000 | (6,783,649) |
| 1 | | 46,045 | 226,122 | 272,167 | 272,167 | 0.962 | 261,825 | 0.952 | 259,103 |
| 2 | | 58,519 | 226,122 | 284,641 | 284,641 | 0.925 | 263,293 | 0.906 | 257,884 |
| 3 | | 71,244 | 226,122 | 297,366 | 297,366 | 0.890 | 264,656 | 0.863 | 256,627 |
| 4 | | 50,606 | 226,122 | 276,728 | 276,728 | 0.856 | 236,879 | 0.822 | 227,470 |
| 5 | | 68,475 | 226,122 | 294,597 | 294,597 | 0.823 | 242,453 | 0.783 | 230,669 |
| 6 | | 86,469 | 226,122 | 312,591 | 312,591 | 0.792 | 247,572 | 0.745 | 232,880 |
| 7 | | 105,062 | 226,122 | 331,184 | 331,184 | 0.762 | 252,362 | 0.709 | 234,809 |
| 8 | | 124,223 | 226,122 | 350,345 | 350,345 | 0.733 | 256,803 | 0.675 | 236,483 |
| 9 | | 143,921 | 226,122 | 370,043 | 370,043 | 0.705 | 260,881 | 0.643 | 237,938 |
| 10 | | 164,123 | 226,122 | 390,245 | 390,245 | 0.678 | 264,586 | 0.612 | 238,830 |
| 11 | | 185,291 | 226,122 | 411,413 | 411,413 | 0.652 | 268,241 | 0.583 | 239,854 |
| 12 | | 207,231 | 226,122 | 433,353 | 433,353 | 0.627 | 271,712 | 0.555 | 240,511 |
| 13 | | 229,352 | 226,122 | 455,474 | 455,474 | 0.603 | 274,651 | 0.528 | 240,490 |
| 14 | | 181,884 | 226,122 | 408,006 | 408,006 | 0.580 | 236,643 | 0.503 | 205,227 |
| 15 | | 196,634 | 226,122 | 422,756 | 422,756 | 0.558 | 235,898 | 0.479 | 202,500 |
| 16 | | 211,937 | 226,122 | 438,059 | 438,059 | 0.537 | 235,238 | 0.456 | 199,755 |
| 17 | | 227,735 | 226,122 | 453,857 | 453,857 | 0.517 | 234,644 | 0.434 | 196,974 |
| 18 | | 243,963 | 226,122 | 470,085 | 470,085 | 0.497 | 233,632 | 0.413 | 194,145 |
| 19 | | 260,989 | 226,122 | 487,111 | 487,111 | 0.478 | 232,839 | 0.393 | 191,435 |
| 20 | | 278,292 | 226,122 | 504,414 | 504,414 | 0.460 | 232,030 | 0.374 | 188,651 |
| 21 | | 309,355 | 226,122 | 535,477 | 535,477 | 0.443 | 237,216 | 0.356 | 190,630 |
| 22 | | 341,829 | 226,122 | 567,951 | 567,951 | 0.426 | 241,947 | 0.339 | 192,535 |
| 23 | | 375,677 | 226,122 | 601,799 | 601,799 | 0.410 | 246,738 | 0.323 | 194,381 |
| 24 | | 305,436 | 226,122 | 531,558 | 531,558 | 0.394 | 209,434 | 0.307 | 163,188 |
| 25 | | 337,056 | 226,122 | 563,178 | 563,178 | 0.379 | 213,444 | 0.292 | 164,448 |
| 26 | | 369,691 | 226,122 | 595,813 | 595,813 | 0.365 | 217,472 | 0.278 | 165,636 |
| 27 | | 403,677 | 226,122 | 629,799 | 629,799 | 0.351 | 221,060 | 0.265 | 166,897 |
| 28 | | 438,955 | 226,122 | 665,077 | 665,077 | 0.338 | 224,796 | 0.252 | 167,599 |
| 29 | | 475,850 | 226,122 | 701,972 | 701,972 | 0.325 | 228,141 | 0.240 | 168,473 |
| 30 | | 514,294 | 226,111 | 740,405 | 740,405 | 0.313 | 231,747 | 0.228 | 168,812 |
| | | 7,013,812 | 6,783,649 | 13,797,461 | 7,013,812 | | 495,182 | | (528,814) |

Internal Rate of Return =4+1( 495,182 /495,182+528,814)
= 4+ 1 x 0.484
= 4+ 0.48
=4.48%

# ပြည်ထောင်စုမြန်မာနိုင်ငံတော်

## ရွှေနေချုပ်ရုံး

## နေပြည်တော်

စာအမှတ်၊ ၂(၅)၁၃ - ၅/နပတ(၁၁၇)
ရက်စွဲ ၊ ၂၀၀၆ ခုနှစ်၊ နိုဝင်ဘာလ၂၈ရက်

အကြောင်းအရာ။ မန္တလေး-လားရှိုး-မူဆယ် လမ်းမကြီး၏ နောင်ချို-လားရှိုးအပိုင်း (မိုင် ၁၂၃/၀-၁၇၂/၀)အထိ လမ်းဖောက်လုပ်-လုပ်ကိုင်ရေးစာချုပ် (မူကြမ်း) အပေါ် သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ

ရည် ညွှန်း ချက် ။ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း ၊လမ်းဦးစီး၏ ၁၅-၁၁-၂၀၀၆ ရက်စွဲပါ စာအမှတ် ၊ လစမ/ရှမ်းမြောက်/အေးရှားဝေါလ်/ ၄၃၀

၁။ မန္တလေး - လားရှိုး - မူဆယ်လမ်းမကြီး၏ နောင်ချို-လားရှိုးအပိုင်း ( မိုင်တိုင် ၁၂၃/၀မှ၁၇၂ /၀ ) အထိ လမ်းပြုပြင်၊ ဖောက်လုပ်ခြင်းလုပ်ငန်း လုပ်ကိုင်ရေး အတွက် ပြည်သူ့ဆောက်လုပ်ရေး လုပ်ငန်းနှင့် အေးရှားဝေါလ်ကုမ္ပဏီတို့ ချုပ်ဆိုမည့် စာချုပ်(မူကြမ်း)အပေါ် သဘောထားမှတ်ချက်ပေး ပါရန် ရည်ညွှန်းပါစာဖြင့် ပေးပို့လာသည့် ကိစ္စရပ် ဖြစ်ပါသည်။

၂။ ရည်ညွှန်းချက်ပါစာအရ လမ်းအပိုင်းကို ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်းနှင့် ဒိုင်းမွန်း ပဲလေ့စ်ကုမ္ပဏီလီမိတက်တို့ ၁၉၉၈ ခုနှစ်တွင် BOT စနစ်ဖြင့် တိုးတက်ပြုပြင်ဖောက်လုပ်ရန် ၁၉၉၈ ခုနှစ်တွင် သဘောတူစာချုပ် ချုပ်ဆိုထားသော်လည်း လမ်း၊ တံတားလုပ်ငန်းများကို အချိန်မီပြီးစီးအောင် ဆောင်ရွက်နိုင်ခြင်းမရှိသဖြင့် ၂၀-၁-၂၀၀၆ နေ့မှစ၍ စာချုပ်ကိုရပ်စဲခဲ့ကြောင်း သိရှိရပါသည်။

၃။ ပူးတွဲပေးပို့လာသောစာချုပ်(မူကြမ်း)ကို လေ့လာစိစစ်ရာ ဥပဒေကြောင်းအရ အငြင်းပွားမှု ဖြေရှင်းခြင်း (အနုညာတစီရင်ဆုံးဖြတ်ခြင်း)စာပိုဒ်မပါရှိသဖြင့်၊ အငြင်းပွားမှုဖြေရှင်းခြင်း စာပုဒ်ကို Slip ကပ်ပေးလိုက်ပါသည်။

၄။ လုပ်ငန်းလုပ်ကိုင်ခွင့်ရသူက ခိုင်လုံသောအကြောင်းပြချက်မရှိဘဲ လုပ်ငန်းကို သတ်မှတ်ချိန် အတွင်းပြီးစီးအောင် ဆောင်ရွက်ပေးရန် ပျက်ကွက်ခြင်း၊ နှောင့်နှေးကြန့်ကြာခြင်းများ ဖြစ်ပေါ်လာပါက လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူမှ နှောင့်နှေးသည့် ရက်များအတွက် သင့်လျော်သော နှုန်းထားများသတ်မှတ်၍ Liquidated Damages တောင်းခံခွင့်ရှိသည်ဆိုသော စာပိုဒ်ကိုလုပ်ငန်း လုပ်ကိုင်ခွင့်ပြုသူ၏ တာဝန်များတွင် ထည့်သွင်းဖော်ပြရန်သင့် မသင့် စဉ်းစားသင့်ပါသည်။

၅။ လိုအပ်သောနေရာများတွင်မင်္ဂနိဖြင့် ပြင်ဆင်ရေးသားပေးလိုက်ပါသည်။ စာချုပ်(မူကြမ်း) ပါစိမံရေးရာ၊ ဘဏ္ဍာရေးရာနှင့် ကျွမ်းကျင်မှုဆိုင်ရာကိစ္စများအတွက် သက်ဆိုင်ရာဌာနများနှင့် ညှိနှိုင်း ဆောင်ရွက်ရန် အကြံပြုပါသည်။

၆။ အေးရှားဝေါလ်ကုမ္ပဏီသည် ဥပဒေနှင့်အညီ တရားဝင်ဖွဲ့စည်းထားသောကုမ္ပဏီဟုတ် မဟုတ်၊ စာချုပ်ပါ လုပ်ငန်းကိုဆောင်ရွက်နိုင်ခြင်းရှိ မရှိ၊ ငွေရေးကြေးရေးပြည့်စုံမှုရှိ မရှိ၊ စာချုပ်တွင် လက်မှတ်ရေးထိုးမည့်ပုဂ္ဂိုလ်သည် တရားဝင်လွှဲအပ်ခြင်းခံရသူဟုတ် မဟုတ် စသည်တို့ကို ကြိုတင်စိစစ် ထားရန်လိုအပ်ပါသည်။

၇။ ဤစာချုပ်(မူကြမ်း)ကို လက်မှတ်ရေးထိုးပြီးပါက မှတ်တမ်းတင်ထားရှိရန်အတွက် ဤရုံး သို့မိတ္တူ(၃)စုံပေးပို့ပါရန် မေတ္တာရပ်ခံအပ်ပါသည်။

ညွှန်ကြားရေးမှူးချုပ်(ကိုယ်စား)
( အေးအေးကြည်၊ ညွှန်ကြားရေးမှူး )

ဦးဆောင်ညွှန်ကြားရေးမှူး
ပြည်သူ့ဆောက်လုပ်ရေး

# ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ

# ဆောက်လုပ်ရေးဝန်ကြီးဌာန

## ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း

## နှင့်

## အေးရှားဝါး(လ်)ကုမ္ပဏီလီမိတက်

တို့အကြား ချုပ်ဆိုသည့်

မန္တလေး–လားရှိုး–မူဆယ် ပြည်ထောင်စုလမ်းကြီး၏

ကျောက်မဲ–လားရှိုး လမ်းအပိုင်း

( မိုင်တိုင် ၁၂၃ /၀ မှ ၁၇၂ /၀ ထိ ) (၄၉–မိုင်) ကို

ပြုပြင် ဖေါက်လုပ် ၊လုပ်ငန်း လုပ်ကိုင်ရေး

## ပဋိညာဉ်စာချုပ် ( မူကြမ်း)

ကန်ထရိုက်နံပါတ် –

၂၀၀၀ ခုနှစ်၊ လ (   )ရက်

**မွန္တလေး–လားရှိုး–မူဆယ် ပြည်ထောင်စု လမ်းမကြီး၏**

**ကျောက်မဲ – လားရှိုး လမ်းအပိုင်း မိုင်တိုင် ၁၂၃/၀ မှ မိုင်တိုင် ၁၇၂/၀ ထိ**

**( ၄၉–မိုင် ) ကို ပြုပြင် ဖောက်လုပ်၊ လုပ်ငန်းလုပ်ကိုင်ရေး**

**ပဋိညာဉ်စာချုပ် ( မူကြမ်း)**

ဤပဋိညာဉ်စာချုပ်ကို ပြည်ထောင်စုမြန်မာနိုင်ငံ၊ နေပြည်တော်တွင် ၂၀၀၈ခုနှစ်၊ လ၊ ( ) ရက်နေ့၌ **ဦးဆောင်ညွှန်ကြားရေးမှူး၊ ဦးစင်မောင်ဆယ်** ကိုယ်စားပြုသော **ဆောက်လုပ်ရေးဝန်ကြီးဌာန၊ ပြည်သူ့ ဆောက်လုပ်ရေးလုပ်ငန်း၊** နေပြည်တော်၊ (နောင်တွင် **" လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ "** ဟုရည်ညွှန်း ခေါ်ဆိုမည်ဖြစ်ရာ၊ ယင်းစကားရပ်တွင် စာသားအရ သော်လည်းကောင်း၊ အဓိပ္ပါယ်အရ သော်လည်းကောင်း၊ ရှေ့နောက်ဆန့်ကျင် ကွဲလွဲခြင်းမရှိပါက၊ ယင်း၏ ဆက်ခံသူများနှင့် ဥပဒေအရ လွှဲအပ်ခံရသူများ ပါဝင် သည် ဟုမှတ်ယူရမည်) က တစ်ဖက်

နှင့်

**မန်နေးဂျင်းဒါရိုက်တာ၊ ဦးထွန်းမြင့်နိုင်** ကိုယ်စားပြုသော **အေးရှားဝါး(လ်)ကုမ္ပဏီလီမိတက်၊** အမှတ် (၆၁–၆၂)၊ ဗဟိုစည်အိမ်ရာ၊ ဝါးတန်းလမ်း၊ လမ်းမတော်မြို့နယ်၊ ရန်ကုန်မြို့ (နောင်တွင် **"လုပ်ငန်း လုပ်ကိုင်ခွင့်ရသူ "** ဟု ရည်ညွှန်းခေါ်ဆိုမည်ဖြစ်ရာ၊ ယင်းစကားရပ်တွင် စာသားအရ သော်လည်း ကောင်း၊ အဓိပ္ပါယ်အရ သော်လည်းကောင်း၊ ရှေ့နောက်ဆန့်ကျင် ကွဲလွဲခြင်းမရှိပါက၊ ယင်း၏ တရားဝင်ကိုယ်စားလှယ်များ၊ ဆက်ခံသူများနှင့် ဥပဒေအရ လွှဲအပ်ခံရသူများ ပါဝင်သည်ဟု မှတ် ယူရမည်)က အခြား တစ်ဖက်တို့ ချုပ်ဆို ကြပါသည်။

**နိဒါန်း**

"လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ"သည် လမ်းနှင့် တံတား အသုံးပြုခနှင့် အခြားအကျိုးခံစားခွင့်များကို ထည့်သွင်းစဉ်းစား၍ ၊ စာချုပ်ပါ လုပ်ငန်းများ ဆောင်ရွက်ရန် အလို့ငှာ ဤပဋိညာဉ်စာချုပ်ကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ နှစ်ဦး နှစ်ဖက် အကျေအလည် ညှိနှိုင်းပြီး အောက်ပါအတိုင်း သဘောတူကြပါသည် –

၁။ **ဆောင်ရွက်ရမည့် လုပ်ငန်းများ**

(က) "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ " သည် ကျောက်မဲ–လားရှိုး လမ်းအပိုင်း မိုင်တိုင် ၁၂၃/၀ မှ မိုင်တိုင် ၁၇၂/၀ အထိ အရှည် (၄၉–မိုင်) အား ( နောင် တွင် " **လမ်းစီမံကိန်း** " ဟု ရည်ညွှန်း ခေါ်ဆိုမည်)ကို ပုံစံပြုရန်နှင့် ဖောက်လုပ် တည်ဆောက်ရန်၊

(ခ) " လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ " သည် လမ်း–တံတား အသုံးပြုခ ကောက်ခံရန် ဂိတ်များ၊ ကောက်ခံသည့် ရုံးများ၊ ထိန်းချုပ်ရေးနှင့် ဆက်သွယ်ရေး စခန်းများ၊ ယာဉ်ရပ်နား စခန်းများ၊ လမ်းကူး လမ်းစပ်များ၊ နားခိုရာ နေရာများနှင့် အပန်းဖြေ စခန်းများအတွက် ပုံစံပြုရန်နှင့် တည်ဆောက်ရန်၊

(ဂ) "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" သည် ဤပဋိညာဉ်စာချုပ်ပါ "လမ်းစီမံကိန်း " အတွက် လမ်း–တံတား အသုံးပြုခ ကောက်ခံရန် တစ်ဦးတည်း ကိုယ်စားလှယ် အဖြစ် ဆောင်ရွက်ရန်၊

(ဃ) " လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ " သည် ဤပဋိညာဉ်စာချုပ်ပါ " လမ်းစီမံကိန်း "ကို ပြုပြင်ဖေါက်လုပ်ပြီး၊ လမ်းအပိုင်းအလိုက် လမ်း-တံတားအသုံးပြုခများ ကောက်ခံခွင့် ရရှိစေရန်၊

(င) အဆိုပါ "လမ်းစီမံကိန်း" အတွက် လမ်း-တံတားအသုံးပြုခနှင့် အခြားအကျိုးခံစားခွင့်များကို နှစ်ပေါင်း (၃၀)အထိ ကောက်ခံခွင့် ရရှိစေရန်၊

၂။ **လမ်း – တံတား အသုံးပြုခ ကောက်ခံရန်ဂိတ်များ**

ဤ "လမ်းစီမံကိန်း" တွင် အသွား / အပြန် ခရီးစဉ်များအတွက် လမ်း-တံတား အသုံးပြုခ ကောက်ခံရန် အောက်ပါ နေရာများတွင် ဂိတ်(၂)ခု ဖွင့်လှစ်ကောက်ခံမည် ဖြစ်ပါသည်-

(က) ဂိတ်အမှတ် ၁ - သီပေါဂိတ် ( မိုင်တိုင် ၁၂၇ / ၂-၃ )
(ခ) ဂိတ်အမှတ် ၂ - ဒေးနင်းဂိတ် ( မိုင်တိုင် ၁၆၃/၃-၄ )

၃။ **လမ်း-တံတား အသုံးပြုခနှုန်းများ**

(က) **"လမ်း အသုံးပြုခနှုန်းများ"**မှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

(၁) ယာဉ်ငယ်များ ( ၁-တန်အထိ) - တစ်စီးလျှင် ကျပ်( ၁၀၀)၊
(၂) ယာဉ်လတ်များ (၁-တန်မှ ၂ ၃/၄ တန်အထိ) - တစ်စီးလျှင် ကျပ် (၃၀၀)၊
(၃) ကားကြီးများ ( ၅-တန်အထိ ) - တစ်စီးလျှင် ကျပ်( ၅၀၀)၊
(၄) ကုန်တင်ယာဉ်ကြီးများ ( ၁၀-တန်အထိ ) - တစ်စီးလျှင် ကျပ်(၁၀၀၀)၊
(၅) ကုန်တင်ယာဉ်ကြီးများ (၂၀-တန်အထိ ) - တစ်စီးလျှင် ကျပ်(၂၀၀၀)၊

( တန်-၂၀နှင့်အထက် ယာဉ်များသည် နောက်ထပ်ပိုသော ၁-တန်တိုင်းအတွက် ကျပ်-၂၀၀ စီ ထပ်မံ ပေးဆောင်ရမည်။ )

(ခ) **"တံတားအသုံးပြုခနှုန်းထားများ "**မှာ ဆောက်လုပ်ရေးဝန်ကြီးဌာနမှ အခါအားလျော်စွာ သတ်မှတ်သည့် စီမံကိန်းဝင် တံတားကြီးများ၏ တံတားအသုံးပြုခနှုန်းထားများအတိုင်း ကျောက်မဲ-လားရှိုး လမ်းအပိုင်းတွင် တည်ဆောက်သည့် စီမံကိန်းဝင် တံတားကြီးများအတွက် တံတားအသုံးပြုခ ကောက်ခံရန် ဖြစ်ပါသည်။

(ဂ) လမ်း-တံတား အသုံးပြုခ နှုန်းထားများကို ဤစာချုပ်အရ မည်သို့ပင် သတ်မှတ်ထားစေကာမူ၊ နိုင်ငံတော်မှ အခါအားလျော်စွာ သတ်မှတ်ပေးသည့် ယာဉ်အမျိုးအစားနှင့် သတ်မှတ် နှုန်းထားအတိုင်း ကောက်ခံသွားရမည် ဖြစ်သည့်အပြင်၊ အောက်ဖေါ်ပြပါ လမ်း-တံတား အသုံးပြုသည့် ယာဉ်များအတွက်ကို သတ်မှတ်နှုန်းထားထက် သင့်လျော် လျော့ပေါ့သည့် နှုန်းထားများဖြင့် ကောက်ခံခြင်း (သို့မဟုတ်) ကင်းလွတ်ခွင့် ပြုသွားရမည် ဖြစ်သည်-

(၁) သက်ဆိုင်ရာ အာဏာပိုင်အဖွဲ့အစည်း၊ တပ်မတော်၊ ပြည်သူ့ရဲတပ်ဖွဲ့နှင့် မီးသတ်ယာဉ်များ၊ သူနာပြုယာဉ်များအပြင်၊ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်းမှ လုပ်ငန်းတာဝန်ဖြင့် ခရီးသွားလာသည့် အမှုထမ်း၊ အရာထမ်းများ ကိုယ်တိုင် လိုက်ပါသွားလာသည့် (ဌာနပိုင်/ကိုယ်ပိုင်)မော်တော်ယာဉ်များကို လမ်း-တံတား အသုံးပြုခ ကင်းလွတ်ခွင့်ပြုရန်၊

(၂) ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်းအတွက် ဆောက်လုပ်ရေးပစ္စည်းများ တင်ဆောင်သွားလာသည့် မော်တော်ယာဉ်များကို လမ်း-တံတားအသုံးပြုခ ကင်း လွတ်ခွင့်ပြုရန်၊

(၃) နိုင်ငံတော်အတွက် စွမ်းစွမ်းတမံ တာဝန်ထမ်းဆောင် ခဲ့ကြပြီး၊ အပြစ်ကင်းစွာဖြင့် အငြိမ်းစား ယူသွားသော ပုဂ္ဂိုလ်ကြီးများနှင့် ၄င်းတို့၏ ဇနီးများအား ဆောက်လုပ်ရေးဝန်ကြီးဌာန၊ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်းမှ တရားဝင် အထောက်အထားအဖြစ် ဂုဏ်ပြု ထုတ်ပေးထားသော လမ်း-တံတား အသုံးပြုခ ရာသက်ပန် ကင်းလွတ်ခွင့် ကိုင်ဆောင်၍ ကိုယ်တိုင်လိုက်ပါသွားလာသည့် မော်တော်ယာဉ်များကို လမ်း-တံတားအသုံးပြုခ ကင်းလွတ်ခွင့်ပြုရန်၊

(၃) "လမ်းစီမံကိန်း"ဒေသမှ ပြည်တွင်း စားသုံးမှုအတွက် ဒေသထွက် အခြေခံစားသောက် ကုန်စည်များအား သယ်ဆောင်လာသည့် မော်တော်ယာဉ်များကို သတ်မှတ် နှုန်းထားထက် သင့်လျော် လျော့ပေါ့သည့် နှုန်းထားများဖြင့် လမ်း-တံတားအသုံးပြုခ ကောက်ခံရန်။

(၄) နိုင်ငံတော်မှ တာဝန်ယူဆောင်ရွက်သော ပြည်ပ ပို့ကုန်-သွင်းကုန် များကို ဌာနဆိုင်ရာမှ ထောက်ခံချက် အထောက်အထားဖြင့် သယ်ဆောင် သွားလာသည့် မော်တော်ယာဉ်များကို သတ်မှတ် နှုန်းထားထက် သင့်လျော် လျော့ပေါ့သည့် နှုန်းထားများဖြင့် လမ်း-တံတားအသုံးပြုခ ကောက်ခံရန်။

၄။ **အာမခံခြင်းနှင့် ကိုယ်စားပြုခြင်း**

ပဋိညာဉ်စာချုပ်ဝင်များသည် မြန်မာနိုင်ငံ၏ တည်ဆဲဥပဒေများအရ ဖွဲ့စည်းထား၍ အခွင့်အာဏာ အပ်နှင်းခြင်းခံရသော တရားဝင် ရပ်တည်ခွင့် ရှိသူများဖြစ်ကြပြီး၊ ဤပဋိညာဉ်စာချုပ်ကို ချုပ်ဆိုရန်အလို့ငှာ ငွေကြေး အင်အား ပြည့်စုံပြီး၊ လုပ်ပိုင်ခွင့်အာဏာ ရှိသူများဖြစ်ကြောင်း အသီးသီး ကိုယ်စားပြု အာမခံချက်ပေးပါသည်။

၅။ **အဓိပ္ပါယ်ဖွင့်ဆိုချက်များ**

အောက်ပါအတိုင်းဖြစ်ပါသည် -

(က) "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူပိုင် စက်ယန္တရားများ" ဆိုသည်မှာ ဤလမ်းစီမံကိန်းလုပ်ငန်းကို ပြီးစီးအောင် ဆောင်ရွက်ရာတွင် လည်းကောင်း၊ လုပ်ငန်းပျက်စီးသည့် အစိတ်အပိုင်းများ ပြုပြင်ဆောင်ရွက်ရာတွင် လည်းကောင်း၊ အသုံးပြုမည့် စက်၊ ယာဉ်၊ ယန္တရားများ၊ စက်သုံးကိရိယာ တန်ဆာပလာ ပစ္စည်းများကို ခေါ်ဆိုသည်။ အမြဲတမ်း လုပ်ငန်းများအတွက် ရည်ရွယ်၍ တည်ဆောက်ထားသော အဆောက်အဦ၊ စက်ရုံ၊ အလုပ်ရုံ၊ လုပ်ငန်းသုံးပစ္စည်းများ ပါဝင်ခြင်း မရှိစေရပါ၊

(ခ) "ပစ္စည်း" ဆိုသည်မှာ(စက်ရုံ၊အလုပ်ရုံများမှအပ) ဤပဋိညာဉ်စာချုပ်ပါ စည်းကမ်းချက်များအရ လမ်းစီမံကိန်းလုပ်ငန်းအတွက် လိုအပ်သော "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" မှ ပေးသွင်းသည့် (လိုအပ်ပါက နိုင်ငံခြားမှ မှာယူ တင်သွင်းသော ပစ္စည်းများ အပါအဝင်) လုပ်ငန်းသုံး ပစ္စည်းအားလုံးကို ခေါ်ဆိုသည်၊

(ဂ) "အမြဲတမ်းလုပ်ငန်းများ" ဆိုသည်မှာ ဤပဋိညာဉ်စာချုပ်ပါ "လမ်းစီမံကိန်း"လုပ်ငန်းတွင် အကျုံးဝင်သော ပုံစံပြုဆောင်ရွက်ရမည့် အမြဲတမ်း လုပ်ငန်းများကို ခေါ်ဆိုသည်၊

(ဃ) "စက်ရုံ၊အလုပ်ရုံ" ဆိုသည်မှာ ဤပဋိညာဉ်စာချုပ်ပါ စည်းကမ်းချက်များအရ၊ "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ"မှ ဤလမ်းစီမံကိန်း လုပ်ငန်းတွင် အကျုံးဝင်သော အမြဲတမ်းလုပ်ငန်းများ ဆောင်ရွက်ရာတွင် အထောက်အကူပြုစေရန် ရည်ရွယ်၍ စက်ပစ္စည်း၊ ကိရိယာ (လိုအပ်ပါက နိုင်ငံခြားမှ မှာယူတင်သွင်းသည့် စက်ပစ္စည်း၊ ကိရိယာ) များ တပ်ဆင်ထားသည့် စက်ရုံ၊ အလုပ်ရုံကို ခေါ်ဆိုသည်၊

(င) "အပိုင်း" ဆိုသည်မှာ "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" မှ တာဝန်ယူ ပုံစံပြု ဆောက်လုပ်ရမည့် လုပ်ငန်းအပိုင်းကို ဆိုလိုသည်၊

(စ) "လုပ်ခွင်နေရာ" ဆိုသည်မှာ ဤပဋိညာဉ်စာချုပ်တွင် ရည်ညွှန်း ဖော်ပြထားသည့် လုပ်ငန်းအပိုင်း၏ နေရာများ၊ "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ"မှ လုပ်ငန်းဆောင်ရွက်ရန် သတ်မှတ်ပေးထားသည့် နေရာများ၊ ရုံးအဆောက်အအုံ၊ စက်ရုံ၊ အလုပ်ရုံ တည်ဆောက်ထားသည့် နေရာများ၊ ပစ္စည်းများ စုပုံထားသည့် နေရာများကို ခေါ်ဆိုသည်၊

(ဆ) "ယာယီလုပ်ငန်းများ" ဆိုသည်မှာ ဤ "လမ်းစီမံကိန်း"ကို ပြီးစီးအောင် အကောင်အထည်ဖော် ဆောင်ရွက်ရာတွင် လည်းကောင်း၊ လုပ်ငန်း၏ ပျက်စီး ယိုယွင်းနေသည့် အစိတ်အပိုင်းများ ပြုပြင်ဆောင်ရွက်ရာတွင် လည်းကောင်း၊ အထောက်အကူပြုသည့် လုပ်ငန်းများကို ခေါ်ဆိုသည်၊

(ဇ) "ပြောင်းလဲခြင်း" ဆိုသည်မှာ ဤပဋိညာဉ်စာချုပ် အပိုဒ်(၂၅)အရ "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" ၏ တရားဝင်ကိုယ်စားလှယ်မှ အတည်ပြုပြီးသော လုပ်ငန်းပြောင်းလဲခြင်း၊ (သို့မဟုတ်) "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" ၏ တရားဝင်ကိုယ်စားလှယ်မှ လုပ်ငန်းသဘာဝအရ လုပ်ငန်းပိုမိုကောင်းမွန်စေရန် လုပ်ငန်းပြောင်းလဲလုပ်ကိုင်ရန် တရားဝင် ညွှန်ကြားသည့် လုပ်ငန်းများကို ဆိုလိုသည်၊

(ဈ) "တစ်ဆင့်ခံလုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" ဆိုသည်မှာ ဤပဋိညာဉ်စာချုပ် အပိုဒ်(၁၆)၊ အရ "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ"ထံမှ လုပ်ငန်းတစ်စိတ် တစ်ပိုင်းအား တရားဝင်ခွဲဝေ လုပ်ကိုင်ခွင့်ရသူ (သို့မဟုတ်) လုပ်ငန်းနှင့် သက်ဆိုင်သည့် ပစ္စည်းများ၊ စက်ယန္တရားများ ပေးသွင်းခွင့်ရသူများကို ဆိုလိုသည်၊

(ည) "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ၏ တရားဝင်ကိုယ်စားလှယ်" ဆိုသည်မှာ ဤပဋိညာဉ်စာချုပ်အရ ဤလမ်းစီမံကိန်းလုပ်ငန်းနှင့် ပတ်သက်၍ "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" ၏ တာဝန်များကို ဆောင်ရွက်ရန် "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" မှ တရားဝင်သတ်မှတ် ပေးထားသည့် ကိုယ်စားလှယ်ကို ဆိုလိုသည်၊

(ဋ) "စာချုပ်" ဆိုသည်မှာ ဤပဋိညာဉ်စာချုပ်ကို ဆိုလိုသည်၊

(၅) လုပ်ငန်းအပြီးသတ် ဆောင်ရွက်ပြီးစီးမှုလက်မှတ် ( FINAL COMPLETION CERTIFICATE) ဆိုသည်မှာ ပဋိညာဉ်စာချုပ်၏ နောက်ဆက်တွဲ(က)ပါ နည်းပညာဆိုင်ရာ စံညွှန်းသတ်မှတ်ချက်များ ( TECHNICAL SPECIFICATIONS ) နှင့်အညီ "လမ်းစီမံကိန်း"ကို ဖောက်လုပ်ပြီးစီးသည့်အခါ "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ"မှ စစ်ဆေး၍ ယင်းနည်းပညာဆိုင်ရာ စံညွှန်းသတ်မှတ်ချက်များနှင့် ကိုက်ညီစွာ ဖောက်လုပ်ထားကြောင်း တွေ့ရှိချိန်တွင် "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" အား "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ"မှ ထုတ်ပေးမည့် လက်မှတ် ဖြစ်သည်။

၆။ လုပ်ငန်းအရွယ်အစားဖော်ပြချက်

အောက်ပါအတိုင်းဖြစ်ပါသည် -

(က) ဤ"လမ်းစီမံကိန်း"လုပ်ငန်း၏ လမ်းနယ်နိမိတ်အား ကျေးရွာများအတွင်း ဖြတ်သန်းသည့် နေရာများမှအပ ပေ(၂၀၀)အကျယ် သတ်မှတ်သည်။ မြို့များ အတွင်းတွင် သက်ဆိုင်ရာ မြို့နယ်အေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေးကောင်စီ၏ ကြီးကြပ်မှုဖြင့် သက်ဆိုင်ရာ မြေစာရင်းဦးစီးဌာနမှ သတ်မှတ်ထားသည့် လမ်းနယ် နိမိတ်သာ ဖြစ်စေရမည်၊

(ခ) "လမ်းသားအကျယ်" မှာ (၂) လမ်းသွားအတွက် (၃၈)ပေ အကျယ် ရှိစေရမည်။ တောင်ပေါ် ဒေသများတွင် လမ်းသားအကျယ်အား အနည်းဆုံး(၂၈)ပေ အကျယ် ရှိစေရမည်၊

(ဂ) ယာဉ်သွားလမ်းအကျယ် (၂၄)ပေအကျယ်ကို (၃)နှစ်အတွင်း အပြီးတည်ဆောက်ပေးရမည်၊

(ဃ) လမ်းသား တည်ဆောက်ရာတွင် ယာဉ်နှင့်ကုန် အလေးချိန် စုစုပေါင်း (၄၀)တန် ခံနိုင်ရန် တည်ဆောက်ပေးရမည်၊

(င) တံတားများတည်ဆောက်ရာတွင် (AASHTO HS 20-44 လမ်းမကြီးများ သတ်မှတ်စံနှုန်းအရ) ယာဉ်နှင့်ကုန် စုစုပေါင်းအလေးချိန်(၆၀)တန် ခံနိုင်ရန် တည်ဆောက်ပေးရမည်။တံတားအပေါ်ပိုင်း၊ ကိုယ်ထည်မှာ သံမဏိသံဘောင်တံတား၊ သို့မဟုတ် သံအားဖြည့် ဘိလပ်မြေကွန်ကရိ တံတားကိုယ်ထည်များ ဖြစ်စေရမည်၊

(စ) ပေ(၁၀၀)နှင့် အထက်အရှည်ရှိ တံတားများကို အဓိက တံတားကြီးများအဖြစ် သတ်မှတ်သည်။ ယင်းတံတားကြီးများ တည်ဆောက်ရာတွင် အပိုဒ်ခွဲ(င)ပါ သတ်မှတ်ချက်အတိုင်း တည်ဆောက်ပေးရမည်၊

(ဆ) ဤပဋိညာဉ်စာချုပ်ပါ "လမ်းစီမံကိန်း"အား ပြန်လည် တည်ဆောက်ခြင်းလုပ်ငန်း များ ဆောင်ရွက်နေစဉ်တွင် လည်းကောင်း၊ ပြင်ဆင်ထိန်းသိမ်းခြင်းလုပ်ငန်းများ ဆောင်ရွက်နေစဉ် လည်းကောင်း၊ လမ်းခရီး ဆက်သွယ်မှု မပြတ်တောက်စေရန် "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" မှ တာဝန်ယူစေရမည်။

၇။ **ဆောင်ရွက်ရမည့် လုပ်ငန်းအဆင့်ဆင့်**

ဤ"လမ်းစီမံကိန်း"လုပ်ငန်းကို ပြုပြင်ဖောက်လုပ်၊ တည်ဆောက်ရာတွင် ဆောင်ရွက်ရမည့် လုပ်ငန်း အဆင့်ဆင့်မှာ အောက်ဖော်ပြပါအတိုင်း ဖြစ်ပါသည် –

(က) လမ်းနယ်နိမိတ်အတွင်း သစ်ပင်များခုတ်လှဲခြင်း၊ သစ်ငုတ်များ ဖယ်ရှားခြင်း၊ ရှင်း လင်းခြင်း လုပ်ငန်း၊

(ခ) လမ်းကြောင်း မြေတူးဖော်ခြင်းလုပ်ငန်း၊

(ဂ) လမ်းကြောင်း မြေဖို့ရန် အခြားနေရာများမှ မြေတူးခြင်းလုပ်ငန်း၊

(ဃ) လမ်းမြေသား တာဘောင်ဖို့ခြင်းလုပ်ငန်း၊

(င) ဒု–အခြေခံလွှာ တည်ဆောက်ခြင်းလုပ်ငန်း၊

(စ) အခြေခံလွှာ တည်ဆောက်ခြင်းလုပ်ငန်း၊

(ဆ) ကတ္တရာ ရေပိတ်လွှာ လောင်းခြင်းလုပ်ငန်း၊

(ဇ) နိုင်လွန်ကတ္တရာ အလွှာခင်းခြင်းလုပ်ငန်း၊

(ဈ) လမ်းပုံသဏ္ဍာန်မှန် ရရှိရန် ပြင်ညှိအလွှာ တည်ဆောက်ခြင်းလုပ်ငန်း၊

(ည) လမ်းပခုံးများ တည်ဆောက်ခြင်း၊ လမ်းဘေးဝဲယာ ရေနုတ်မြောင်း တူးဖော်ခြင်း လုပ်ငန်း၊ နိမ့်လျှောမြေသား မျက်နှာပြင်များ ပြုပြင်ခြင်းလုပ်ငန်းများ၊

(ဋ) လမ်းသားနှင့် ဝဲယာရေနုတ်မြောင်း၊ ကြားဖြတ်ရေနုတ်မြောင်းများ တည်ဆောက် ခြင်းလုပ်ငန်းများ၊

(ဌ) လမ်း အကွာအဝေးပြ မိုင်တိုင်များ စိုက်ထူခြင်းလုပ်ငန်း၊ လမ်း အမှတ်အသားပြ တိုင်များ စိုက်ထူခြင်းလုပ်ငန်း၊

(ဍ) စီမံကိန်းလုပ်ငန်း၊ လမ်းအပိုင်းများနှင့် ဆက်သွယ်လမ်းများ ဖောက်လုပ်ခြင်း၊

(ဎ) လမ်း–တံတားအသုံးပြု ကောက်ခံရေးဂိတ်များနှင့် အခြား အထောက်အကူပြု အဆောက်အဦများ တည်ဆောက်ခြင်းလုပ်ငန်း၊

၈။ **စံချိန်စံညွှန်းများ**

"လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" သည် "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" မှ သတ်မှတ်ထားသည့် နောက်ဆက်တွဲ(က)ပါ နည်းပညာဆိုင်ရာ စံညွှန်းများနှင့်ကိုက်ညီအောင် လုပ်ငန်းများကို အောက်ပါ အတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ပေးရမည်။အချို့လုပ်ငန်းများ ဆောင်ရွက်ရာတွင် သတ် မှတ်ချက်များအတိုင်း ဆောင်ရွက်ရန်မဖြစ်နိုင်ပါက လိုအပ်သလို နှစ်ဖက်ညှိနှိုင်း ဆောင်ရွက်ခွင့်ရှိ သည်။

(က) **လမ်းမြေသား တာဘောင်ဖို့ခြင်း**

လမ်းမြေသား တာဘောင်ဖို့ခြင်း ဆောင်ရွက်ရာတွင် မြေသားအတွင်း သစ်ပင်သစ် ဆွေးများ၊ကျန်းမာရေး ထိခိုက်စေနိုင်သည့်ပစ္စည်းများ မပါဝင်စေရန် သတိပြုဆောင် ရွက်ရမည်။ သတ်မှတ်ထားသည့် အမြင့်နှင့် လမ်းသားပုံရရှိစေရန် ဆောင်ရွက်ပေး ရမည်။မြေသားသိပ်သည်းမှုသည် သတ်မှတ်ချက်၏(၉၀)ရာခိုင်နှုန်းထက်မနည်းစေရ။

(ခ) **အောက်ခံမြေ**

အောက်ခံမြေသားမှာ လမ်းသား အလွှာအောက်ရှိ တူးထုတ်ထားသော (သို့မဟုတ်) ဖို့ထားသော မြေသားအလွှာဖြစ်ပါသည်။ အောက်ခံ မြေသားသည် သတ်မှတ်ရွေးချယ်ထားသော မြေသားဖြင့် သတ်မှတ်သိပ်သည်းမှု ရရှိအောင် ကြိတ်ထားသည့် အနည်းဆုံး (၁၂)လက်မ အထူရှိသည့် မြေသားအလွှာ ဖြစ်ပါသည်။ သိပ်သည်းမှုမှာ သတ်မှတ် သိပ်သည်းမှု၏ (၉၅)ရာခိုင်နှုန်း (သို့မဟုတ်) ၎င်းအထက် ရှိရမည်။ စီ-ဘီ-အာ (ရေစိမ်) တန်ဘိုးသည် (၅)ရာခိုင်နှုန်း ထက်မနည်း ရှိစေရမည်။

(ဂ) **ဒု-အခြေခံလွှာ**

ဒု-အခြေခံလွှာမှာ ဂဝံကျောက် (သို့မဟုတ်) ကျောက်ရောမြေအား (၁၄)လက်မထု သိပ်သည်းအောင် ကြိတ်ထားသော အလွှာကို ခေါ်ဆိုပါသည်။ သတ်မှတ်သိပ်သည်းမှုမှာ (၉၅)ရာခိုင်နှုန်း ရှိရမည်ဖြစ်ပြီး၊ စီ-ဘီ-အာ(ရေစိမ်) တန်ဘိုးသည် (၃၀) ရာခိုင်နှုန်း (သို့မဟုတ်) ၎င်းအထက် ရှိရမည်။

(ဃ) **အခြေခံလွှာ**

ဒု-အခြေခံလွှာနှင့် အပေါ်မျက်နှာပြင်အကြားရှိ ကျောက်ရောမြေသား(သို့မဟုတ်) ခွဲကျောက်တို့ကို (၉)လက်မထု သိပ်သည်းလွှာရရှိအောင် ဆောင်ရွက်ရမည့် အလွှာဖြစ်ပါသည်။ စီ-ဘီ-အာ (ရေစိမ်) တန်ဘိုးသည် (၈၀) ရာခိုင်နှုန်းအထက် ရှိစေရမည်။

(င) **ကတ္တရာရေပိတ်လွှာ လောင်းခြင်း**

ကတ္တရာရေပိတ်လွှာမလောင်းမီ လမ်းသားမျက်နှာပြင်အား ဖုန်များ၊ ရွှံ့များ၊ အမှိုက်သရိုက်များ၊ သန့်ရှင်းအောင် ဆောင်ရွက်ရမည်။ကတ္တရာရေပိတ်လွှာအား "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ"၏ သတ်မှတ်ချက်များအတိုင်း ဆောင်ရွက်ရမည်။

(စ) **နိုင်လွန်ကတ္တရာမျက်နှာပြင်လွှာ သိပ်သည်းပြီး အထူ ၄" ခင်းခြင်း**

နိုင်လွန်ကတ္တရာအား ရေပိတ်လွှာ ကတ္တရာခင်းပြီးမှ ဆောင်ရွက်ရမည်။ အရည်အသွေးများရရှိရန် နိုင်လွန်ကတ္တရာအား မာရှယ်နည်းကို အသုံးပြု၍ ပုံစံပြုဆောင် ရွက်ရမည်။ စက်ဖြင့်ရောစပ်ခြင်း၊ စက်ဖြင့်ခင်းခြင်းများကို စာချုပ်နောက်ဆက်တွဲ (က)ပါ စည်းကမ်းချက်များအတိုင်း ဆောင်ရွက်ရမည်။

၉။ **လုပ်ငန်းတန်ဖိုး**

"လမ်းစီမံကိန်း"ကို ဤပဋိညာဉ်စာချုပ်၏ အပိုဒ်-၆ နှင့် အပိုဒ်-၇ တွင် ဖေါ်ပြထားသော လုပ်ငန်းအဆင့်များအတိုင်း ဖွံ့ဖြိုးတိုးတက်အောင် ဆောင်ရွက်ရာ၌ ရင်းနှီးမြှုပ်နှံမှု တန်ဖိုးစုစုပေါင်းမှာ ကျပ် ၆,၇၇၃,၁၇၂,၀၀၀.၀၀ (ကျပ် ခြောက်ထောင် ခုနစ်ရာ ခုနစ် ဆယ့်သုံး သန်း တစ်သိန်း ခုနစ်သောင်း နှစ်ထောင် တိတိ) နှင့် အမေရိကန်ဒေါ်လာ ၁,၇၄၆,၂၃၃.၆၃ (အမေရိကန်ဒေါ်လာ တစ်သန်း ခုနစ်သိန်း လေး သောင်း ခြောက် ထောင် နှစ်ရာ သုံးဆယ့် သုံးနှင့် ဆင့် လေးဆယ့် သုံးတိတိ) ဖြစ်ပါသည်။

၁၀။ **စနေ့ရက်၊ အချိန်နှင့်ကာလ**

အောက်ပါအတိုင်းသတ်မှတ်ပါသည် -

(က) "စတင်ဆောင်ရွက်မည့်နေ့"မှာ "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ"၏ တရားဝင်ကိုယ်စားလှယ်မှ ထုတ်ပေးသည့် လုပ်ငန်းစတင်ရန် အကြောင်းကြားစာကို "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ"မှ လက်ခံရရှိသည့်နေ့ ဖြစ်သည်။

(ခ) "လုပ်ငန်းကာလ" ဆိုသည်မှာ လုပ်ငန်း စတင်သည့်နေ့မှ (၃)နှစ် အထိဖြစ်သည်။

(ဂ) "နေ့ရက်" ဆိုသည်မှာ ပြက္ခဒိန်နေ့ရက်ဖြစ်ပြီး၊ "နှစ်" ဆိုသည်မှာ (၃၆၅)ရက် ဖြစ်သည်။

(ဃ) "အကျိုးသက်ရောက်သည့်နေ့" မှာ "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ"၏ တရားဝင်ကိုယ်စားလှယ်မှ စာဖြင့် တရားဝင် အကြောင်းကြားချက်အရ ဤပဋိညာဉ်စာချုပ်ပါ စည်းကမ်း၊ သတ်မှတ်ချက်များအတိုင်း ပေါ်ပြပါရှိသည့် နေ့သည် အကျိုးသက်ရောက် သည့်နေ့ ဖြစ်သည်။

၁၁။ **"လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ"၏ တရားဝင်ကိုယ်စားလှယ်**

အောက်ပါအတိုင်း ဆောင်ရွက်ရမည် -

(က) "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ"၏ တရားဝင်ကိုယ်စားလှယ်သည် ဤပဋိညာဉ်စာချုပ်တွင် အသေးစိတ် ဖော်ပြထားသော ယင်း၏ တာဝန်များကို ဆောင်ရွက်ရမည်၊

(ခ) "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ"၏ တရားဝင်ကိုယ်စားလှယ်သည် ဤပဋိညာဉ်စာချုပ်အရ တိုက်ရိုက်ဖြစ်စေ၊ သွယ်ဝိုက်၍ဖြစ်စေ သတ်မှတ်ထားသော အခွင့်အာဏာများကို ကျင့်သုံး ဆောင်ရွက်နိုင်သည်၊

(ဂ) "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ"၏ တရားဝင်ကိုယ်စားလှယ်သည် ဥပဒေအရဖြစ်စေ၊ရုပ်ဝတ္ထုအရဖြစ်စေ၊ ဆောင်ရွက်ရန် မဖြစ်နိုင်သည့် ကိစ္စရပ်များမှလွဲ၍ ဤပဋိညာဉ်စာချုပ်နှင့်အညီ လိုအပ်သော ညွှန်ကြားချက်များ ပေးရမည်။

၁၂။ **"လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ"၏ တာဝန်များ**

အောက်ပါအတိုင်းဖြစ်ပါသည် -

(က) "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ"သည် ပဋိညာဉ်စာချုပ်ပါ အချက်များနှင့်အညီ လုပ်ငန်းအတိုင်းအတာ ပမာဏကို ဆောင်ရွက်ရန်နှင့် ပုံစံပြုခြင်း၊ လုပ်ငန်း အကောင်အထည်ဖော်ခြင်း၊ လုပ်ငန်းပြီးစီးအောင် ဆောင်ရွက်ခြင်းနှင့် ပဋိညာဉ်စာချုပ်ပါ အချက်များနှင့်အညီ ပျက်ကွက်မှု တစ်စုံတစ်ရာအတွက် ပြင်ဆင်မှုပြုခြင်းတို့ကို သဘောတူညီပြီး ဖြစ်သည့်အတိုင်း ဆောင်ရွက်ရမည်၊

(ခ) "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ"သည် ရာနှုန်းပြည့်ရင်းနှီးမြှုပ်နှံပြီး သီးခြားကုမ္ပဏီတစ်ခုကို ဖွဲ့စည်း၍၊ ပြည်ထောင်စုမြန်မာနိုင်ငံတော်၏ တည်ဆဲဥပဒေများ နှင့်အညီ "လမ်းစီမံကိန်း"ကို ပြုပြင်ဖောက်လုပ် စီမံအုပ်ချုပ်ခြင်းလုပ်ငန်းကို ပြုလုပ်လိုပါက ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း၏ ခွင့်ပြုချက်ရယူ၍ ပြုလုပ်နိုင်သည်၊

(ဂ) "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ"သည် ကြီးကြပ်သူအလုပ်သမား၊ စက်ရုံ၊အလုပ်ရုံ ပစ္စည်းများ၊ ကိရိယာတန်ဆာပလာ၊ ယာယီလုပ်ငန်းများနှင့် အခြားလိုအပ်သော အရာဝတ္ထုများကို ပြည့်ဆည်း ထောက်ပံ့ရမည့်အပြင် ပုံစံပြုပြင်ခြင်း၊လုပ်ငန်းအကောင်အထည်ဖော်ခြင်း၊ ပြီးဆုံးအောင်ဆောင်ရွက်ခြင်းနှင့် ပျက်ကွက်မှုအတွက် ပြင်ဆင်မှုပြုပေးခြင်း စသည်တို့ကို ဆောင်ရွက်ရမည်၊

(ဃ) "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ"သည် ယင်း၏ ထိန်းချုပ်မှုအောက်ရှိ ဆောက်လုပ်ရေးစခန်းအားလုံးနှင့် လုပ်ငန်းများအားလုံးရှိ လုပ်ငန်းခွင်နေရာများအား လုံလောက်မှု၊ တည်ငြိမ်မှုနှင့် ဘေးအန္တရာယ် ကင်းရှင်းစေမှုရှိစေရေးတို့အတွက် အပြည့်အဝတာဝန် ယူရမည်၊

(င) "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ"သည် ပြည်တွင်းမှ ဝန်ထမ်းများ၊ အလုပ်သမားများ၊ ယင်းတို့၏ လုပ်ခ၊ နေအိမ်၊ အစားအသောက်နှင့် သယ်ယူ ပို့ဆောင်ရေးတို့ကို ယင်း၏ ကိုယ်ပိုင် အစီအစဉ်ဖြင့် ဆောင်ရွက်ပေးရမည်။ ထို့ပြင် လုပ်ငန်းဆောင်ရွက်ရန်အတွက် လိုအပ်ပါက ပြည်ပမှ ဝန်ထမ်းများ၊ လက်မှုပညာသည်များနှင့် အလုပ်သမားများကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုချက်ဖြင့် ခေါ်ယူ ခန့်ထားနိုင်သည်၊

(စ) "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ"သည် ဝန်ထမ်းနှင့် အလုပ်သမားများ၏ ကျန်းမာရေးနှင့် ဘေးအန္တရာယ် ကင်းရှင်းရေးတို့အတွက် ကာကွယ်မှု အစီအစဉ်များ ပြုလုပ်ပေးရမည်၊

(ဆ) "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ"သည် ပုံစံပြုဆောင်ရွက်စဉ်နှင့် လုပ်ငန်းအကောင် အထည် ဖော်စဉ်အတွင်း လိုအပ်သော ကြီးကြပ်ကွပ်ကဲမှုများကို လုပ်ငန်းအပြီး သတ်ဆောင်ရွက်ပြီးစီးမှုလက်မှတ် ( Final Completion Certificate ) ရရှိသည်အထိ ပြုလုပ်ပေးရမည်၊

(ဇ) "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ"သည် ပြည်ပမှ အလုပ်သမားများ မြန်မာနိုင်ငံတွင် ရှိနေစဉ်အတွင်း မြန်မာနိုင်ငံ၏ဥပဒေ၊ လုပ်ထုံးလုပ်နည်း၊ စည်းမျဉ်းများကို လေးစားလိုက်နာရန်နှင့် မြန်မာနိုင်ငံ၏ ပြည်တွင်းရေးတွင် ဝင်ရောက် စွက်ဖက်ခြင်း မပြုရန် တာဝန်ယူရမည်၊

(ဈ) "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ"သည် ပစ္စည်း၊ထုတ်ကုန် (သို့မဟုတ်) ကိရိယာတန်ဆာပလာများ ဝယ်ယူမှုအတွက် တစ်ဆင့်ခံလုပ်ငန်းလုပ်ကိုင်ခွင့်ရသူ တစ်ဦး(သို့မဟုတ်) အများကို လွတ်လပ်စွာ ပြောင်းလဲနိုင်သည်။ တစ်ဆင့်ခံ လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ အားလုံးသည် "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" ၏ အမည်ကိုသာ ရယူရမည့်အပြင် "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" ၏ သဘောတူညီချက် နှင့်အညီ ဖြစ် ရမည်၊

(ည) "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ"သည် လမ်းနှင့်တံတားများ၏ ပုံစံအတွက် အဆိုပြုချက် တင်သွင်းရမည်။ သို့ရာတွင် ယင်းတို့သည် အသေးစိတ်ဖော်ပြချက်ပါ လိုအပ်ချက်များထက် အဆင့်မနိမ့်စေရ။ အဆိုပြုချက် အသစ်တင်ပြရန် လိုအပ်လာပါက အဆိုပြု ချက်အသစ်အရ ဆောင်ရွက်ရာတွင် ဆောက်လုပ်မည့် အချိန်ဇယားသည် နောက်ကျခြင်း မရှိစေရ၊

(ဋ) မြေတိုင်းသည် မြေပုံတွင်ဖော်ပြထားသည့် လမ်း၏ လမ်းအူကြောင်းကို "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ"၏ ခွင့်ပြုချက်ဖြင့် လိုအပ်သလို ပြင်နိုင်သည်၊

(ဌ) "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ"သည် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှု (လုပ်ငန်းခွင်နေရာ အတွင်းနှင့်အပြင်)အတွက် လုပ်ငန်းဆောင်ရွက်မှုကြောင့် လေထု၊ ရေနှင့်မြေအား ညစ်ညမ်းမှုနှင့် သဘာဝ ပတ်ဝန်းကျင် အခြေအနေ ယုတ်လျော့မှု မရှိအောင် ထိန်းသိမ်းရန်၊ အများပြည်သူ နှောင့်ယှက်မှု မရှိစေရန် တို့အတွက် လိုအပ်သော အစီအမံ များချမှတ် ဆောင်ရွက်ပေးရမည်၊

(ဍ) "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ"သည် အထူးအကြောင်း ကိစ္စရပ်များကြောင့် သတ်မှတ်ချိန်အတွင်း လုပ်ငန်းကို ပြီးစီးအောင် မဆောင်ရွက်နိုင်လျှင် "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ"ထံ စာဖြင့်ရေးသား၍ တောင်းဆိုမှုပြုနိုင်သည်။ ယင်းတောင်းဆိုချက်တွင် လုပ်ငန်းပြီးစီးအောင် ဆောင်ရွက်မှုအတွက် အသေးစိတ် အချက်အလက်များနှင့် အချိန်တိုးမြှင့် ပေးရန်အတွက် အသေးစိတ် အကြောင်းပြချက်များ ပါဝင်ရမည်။ "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ"သည် ယင်းတင်ပြချက် အထောက်အထားများအပေါ် အခြေပြု၍ အချိန်တိုးပေးရန် စဉ်းစားမည်၊

(ဎ) လမ်း-တံတားအသုံးပြုခ ကောက်ခံရေးအတွက် လုပ်ငန်းဆောင်ရွက်ရာတွင် "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ"သည် သစ်တောဥပဒေပါ ပြဋ္ဌာန်းချက်များကို လိုက်နာရမည်၊

(ဏ) "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ"သည် "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ"၏ စာဖြင့် ရေးသားထားသော ခွင့်ပြုချက်မရဘဲ လုပ်ငန်းကို လွှဲပြောင်းခြင်း၊ထပ်ဆင့်ငှားရမ်းခြင်းမပြုရ၊

(တ) "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ"၏ တရားဝင် ကိုယ်စားလှယ်ထံမှ လုပ်ငန်းစတင်ရန် အကြောင်းကြားချက် ရရှိသည်နှင့် "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" သည် လမ်းပန်းဆက်သွယ်မှု ပြတ်တောက်ခြင်း မရှိစေရန်အတွက် လုပ်ငန်းစီမံကိန်း နယ်နိမိတ်အတွင်းရှိ လမ်းနှင့်တံတားများကို ကောင်းစွာထိန်းသိမ်း ထားရှိရမည်။ ထို့အပြင် လုပ်ငန်းဆောင်ရွက်သည့် ကာလ နှစ်(၃၀)အတွင်း လမ်းများ၊ တံတားများကို ကောင်းမွန်သော အနေအထားရှိစေရန် အစဉ်ပြုပြင်ထိန်းသိမ်းရေး လုပ်ငန်းများကိုလည်း "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" က ဆောင်ရွက်ရမည်၊

(ထ) "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ"၏ စာဖြင့် ရေးသားထားသော ခွင့်ပြုချက် မရဘဲ လမ်း၊တံတား အသုံးပြုခကောက်ခံရာ ဂိတ်များနှင့် ကောက်ခံသည့် နှုန်းထားများကို ပြောင်းလဲခြင်းမပြုရ၊

(ဒ) လမ်း-တံတား အသုံးပြုခ စတင်ကောက်ခံသည့် ပထမ(၃)နှစ် ကာလအတွက် ကောက်ခံ ရရှိသော လမ်း-တံတား အသုံးပြုခမှ နိုင်ငံတော်သို့ ပေးသွင်းခြင်းကို ကင်းလွတ်ခွင့်ပြုသည်၊

(ဓ) ကောက်ခံရရှိသည့် လမ်း-တံတားအသုံးပြုခ ကောက်ခံရငွေ စုစုပေါင်းမှ အောက်ဖော်ပြပါ ရာခိုင်နှုန်းအတိုင်း စတင်ပေးသွင်းရမည့် နှစ်မှစ၍ နှစ်သက်တမ်းအလိုက် ပြက္ခဒိန်နှစ်၏ နောက်ဆုံးကာလဖြစ်သော ဒီဇင်ဘာလတိုင်း၏ (၁၅)ရက်နေ့မှ (၃၁) ရက်အတွင်း ဘဏ်ငွေလွှဲလွှာ(သို့မဟုတ်) မျဉ်းသားချက်လက်မှတ်ဖြင့် နိုင်ငံတော်သို့ ပေးသွင်းရမည်။ ပေးသွင်းရန် သတ်မှတ်ရက်ထက် နောက်ကျ ကျော်လွန်ပေးသွင်း

ပါက နှစ်၏ ဒီဇင်ဘာလ (၃၁)ရက်ထက် (၁၀)ရက်ကျော်တိုင်း ပေးသွင်းရမည့် ငွေပမာဏ၏ ၁% (တစ်ရာခိုင်နှုန်း)စီကို နောက်ကျ ဒဏ်ကြေးအဖြစ် အပိုဆောင်း၍ ပေးသွင်းရမည်၊

(၁) ( ၁)နှစ်မြောက် မှ ( ၃)နှစ်မြောက်အထိ ( ၃)နှစ် အတွက် ကင်းလွတ်ခွင့်
(၂) ( ၄)နှစ်မြောက် မှ (၁၃)နှစ်မြောက်အထိ (၁၀)နှစ် အတွက် - ၁၀ %
(၃) (၁၄)နှစ်မြောက် မှ (၂၃)နှစ်မြောက်အထိ (၁၀)နှစ် အတွက် - ၂၀ %
(၄) (၂၄)နှစ်မြောက် မှ (၃၀)နှစ်မြောက်အထိ ( ၇)နှစ် အတွက် - ၃၀ %

(န) ညှိနှိုင်းထားသော ကောက်ခံနှုန်းထားများအတိုင်း "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" မှ ကောက်ခံရာတွင် အကျိုးအမြတ်မရရှိမှု၊ အရှုံးပေါ်မှုများရှိလာပါက ကောက်ခံသည့် လမ်း-တံတားအသုံးပြုခနှုန်းထားများကို ညှိနှိုင်းပြင်ဆင်ရန်အတွက်တင်ပြခွင့်ရှိသည်၊

(ပ) ခွင့်ပြုထားသော လမ်း-တံတားအသုံးပြုခ ကောက်ခံသည့် ကာလနှစ်(၃၀)ပြည့်ပြီးနောက် "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ"မှ အကျိုးအမြတ် မရရှိခဲ့လျှင် သော်လည်းကောင်း၊ ဆက်လက် ဆောင်ရွက်လိုလျှင် သော်လည်းကောင်း၊ ကောက်ခံမှု သက်တမ်း ကာလကို တစ်ကြိမ်လျှင် ၅(ငါး)နှစ် စီဖြင့် ၂(နှစ်) ကြိမ် သက်တမ်းတိုးမြှင့် ကောက်ခံခွင့် ရရှိရေးအတွက် "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ"ထံ တင်ပြနိုင်သည်၊

၁၃။ **"လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ"၏ တာဝန်များ**

အောက်ပါအတိုင်းဖြစ်ပါသည် -

(က) "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ"သည် "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ"မှ ပဋိညာဉ်စာချုပ်ပါ လုပ်ငန်းများ ဆောင်ရွက်နိုင်ရန်နှင့် ဥပဒေနှင့်အညီ စီးပွားရေး လုပ်ငန်းများ ဆောင်ရွက်နိုင်ရန် လိုအပ်သော ခွင့်ပြုမိန့်ကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရရှိရန် ပံ့ပိုးကူညီ ဆောင်ရွက်ပေးရမည်၊

(ခ) "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ"သည် "လမ်းစီမံကိန်း" လုပ်ငန်းအတွက် လိုအပ်သော သက်ဆိုင်ရာ ဝန်ကြီးဌာနများ၊ အစိုးရဌာနများ၏ အတည်ပြုချက် သဘောတူညီချက်နှင့် ခွင့်ပြုချက်များ ရရှိအောင် ဆောင်ရွက်ပေးရမည်၊

(ဂ) "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ"သည် ဆိုခဲ့သည့် "လမ်းစီမံကိန်း" လုပ်ငန်းအတွက် အဆိုပြုထားသော လမ်းကြောင်းတန်းမှုအတိုင်း ရရှိစေရန် ပြည့်ဆည်းဆောင်ရွက်ပေးရမည်၊

(ဃ) "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ"သည် "လမ်းစီမံကိန်း" လုပ်ငန်း၏ အပြီးသတ်ဆောင်ရွက် ပြီးစီးမှုလက်မှတ် ( Final Completion Certificate )ကို "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" အား ထုတ်ပေးရမည်၊

(င) "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ"သည် "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" ထံမှ လုပ်ငန်း အကောင်အထည် ဖော်ရန်တာဝန်ယူသည့် ဘဏ်အာမခံ တောင်းခံပိုင်ခွင့်ရှိသည်။

(စ) "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ"သည် လမ်း-တံတားအသုံးပြုခ ကောက်ခံ ရရှိမှုအပေါ် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ-၁၃ တို့အရ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များ ရရှိစေရန် ဥပဒေနှင့်အညီ ကူညီဆောင်ရွက် ပေးရမည်။

**၁၄။ လုပ်ငန်းအကောင်အထည်ဖော်ရန် တာဝန်ယူသည့် ဘဏ်အာမခံ**

"လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ"သည် စာချုပ်ချုပ်ဆိုပြီး (၃၀)ရက်အတွင်း ဤပဋိညာဉ်စာချုပ်၏ အပိုဒ်(၉)တွင် ဖော်ပြထားသော ရင်းနှီးမြှုပ်နှံမှု ကုန်ကျစရိတ် ငွေပမာဏ၏ (၁)ရာခိုင်နှုန်းနှင့် ညီမျှသောငွေကို ပြည်ထောင်စုမြန်မာနိုင်ငံအတွင်းရှိ တရားဝင် ခွင့်ပြုထားသော ဘဏ်တစ်ခုခုမှ ထုတ်ပေးသည့် ကြိုတင်စည်းကမ်းချက်များ မပါရှိဘဲ ပြန်လည်ရုပ်သိမ်းနိုင်ခွင့် မရှိသော လုပ်ငန်း အကောင်အထည်ဖော်ရန် တာဝန်ယူသည့် ဘဏ်အာမခံကို "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" ထံသို့ ထုတ်ပေးရမည်။ အဆိုပါ ဘဏ်အာမခံ၏ သက်တမ်းသည် စတင်ထုတ်ပေးသည့် နေ့မှ လုပ်ငန်း ပြီးဆုံးအောင် ဆောင်ရွက်သည်အထိ ဖြစ်သည်။ "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ"သည် လုပ်ငန်းစတင် ရန် အကြောင်းကြားစာရပြီး (၃၀)ရက်အတွင်း လုပ်ငန်းစတင်ရန် ပျက်ကွက်လျှင် သော်လည်း ကောင်း၊ (၃၆)လအတွင်း လုပ်ငန်းကို ပြီးစီးအောင် ဆောင်ရွက်ရန်အပါအဝင် စာချုပ်ပါစည်းကမ်း ချက်များကို လိုက်နာရန် ပျက်ကွက်လျှင်သော်လည်းကောင်း ဘဏ်အာမခံငွေကို "လုပ်ငန်းလုပ်ကိုင် ခွင့်ပြုသူ"က သိမ်းယူရမည်။ သတ်မှတ်ချက်နှင့်အညီ လုပ်ငန်းပြီးဆုံးပါက ဘဏ်အာမခံကို လုပ်ငန်း အပြီးသတ် ဆောင်ရွက်ပြီးစီးမှု လက်မှတ်ထုတ်ပေးပြီး ရက်ပေါင်း (၃၀)အတွင်း "လုပ်ငန်းလုပ် ကိုင်ခွင့်ရသူ"ထံ ပြန်လည်ထုတ်ပေးရမည်။ ဘဏ် အာမခံပုံစံသည် နောက်ဆက်တွဲ-(၁)ပါ အတိုင်း ဖြစ်သည်။

**၁၅။ လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ၏ တရားဝင်ကိုယ်စားလှယ်**

အောက်ပါအတိုင်းဆောင်ရွက်ရမည် -

(က) "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" သည် တရားဝင် ကိုယ်စားလှယ်ခန့်ရန် ရည်ရွယ်သူ (များ)၏ အမည်၊ ကိုယ်ရေးအချက်အလက်များကို လုပ်ငန်းစတင်ရန် အကြောင်း ကြားစာ ထုတ်ပေးသည့်နေ့မှ (၁၄)ရက်အတွင်း "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ"ထံ တင်ပြရမည်။

(ခ) ယင်းကိုယ်စားလှယ်သည် ဆောက်လုပ်ရေးနှင့် သက်ဆိုင်သည့် အထောက်အထား များ ပြင်ဆင်ထားရှိခြင်း၊ လုပ်ငန်းအကောင်အထည်ဖော် ဆောင်ရွက်ခြင်းများကို အချိန်ပြည့် ဆောင်ရွက်ပေးရမည်။

(ဂ) ယင်းကိုယ်စားလှယ်သည် လုပ်ငန်းခွင်မှ ပျက်ကွက်သည့်အခါ သင့်တော်သူတစ်ဦး ကို အစားထိုး ခန့်ထားပြီးနောက် ထိုသို့အစားထိုး ခန့်ထားကြောင်းကို "လုပ်ငန်း လုပ်ကိုင်ခွင့်ပြုသူ"၏ ကိုယ်စားလှယ်ထံ အကြောင်းကြားရမည်။

**၁၆။ တစ်ဆင့်ခံလုပ်ငန်း လုပ်ကိုင်ခွင့်ပြုခြင်း**

"လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ"သည် လုပ်ငန်းတစ်ခုလုံးအား တစ်ဆင့်ခံ လုပ်ကိုင်ခွင့် မပြုရ။ လုပ်ငန်းတစ်စိတ် တစ်ဒေသကိုမူ တစ်ဆင့်ခံ လုပ်ကိုင်ခွင့် ပြုနိုင်သည်။ ယင်းသို့ တစ်ဆင့်ခံလုပ် ကိုင်ခွင့်ရသူက ပဋိညာဉ်စာချုပ်ပါ စည်းကမ်းချက်များကို လိုက်နာစေရန် "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ"

က တာဝန်ယူရမည်။ လုပ်ငန်းတစ်ဆင့်ခံ လုပ်ကိုင်ခွင့်ရသူ သို့မဟုတ် ယင်း၏ တရားဝင် ကိုယ်စားလှယ် သို့မဟုတ် အလုပ်သမား၏ ပြုလုပ်မှု သို့မဟုတ် ပျက်ကွက်မှုသည် "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ"၏ ပြုလုပ်မှု သို့မဟုတ် ပျက်ကွက်မှုကဲ့သို့ ယင်းတွင် တာဝန်ရှိစေရမည်။

၁၇။ လုပ်ငန်းအစီအစဉ်နှင့် တိုးတက်မှု

အောက်ပါအတိုင်းတင်ပြရန်ဖြစ်ပါသည် -

(က) "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ"သည် လုပ်ငန်းအစီအစဉ် အသေးစိတ်ကို လုပ်ငန်းစတင်သည့် နေ့မှ(၂)လအတွင်း "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ "ထံ တင်သွင်းရမည်။

(ခ) လစဉ် တိုးတက်မှု အစီရင်ခံစာ ( နှစ်ဘက်သဘောတူ၍ လက်မှတ်ထိုးထားသည့် ပုံစံဖြင့်)ကို မိတ္တူ(၆)စုံ ပြုစုပြီး "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ"၏ ကိုယ်စားလှယ်မှ တစ်ဆင့် "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ"ထံ တင်သွင်းရမည်။

၁၈။ စစ်ဆေးခြင်း

လုပ်ငန်းဆောင်ရွက်ရာ၌ လိုအပ်သော အလုပ်သမား၊ ပစ္စည်းများ၊ လျှပ်စစ်၊ လောင်စာ၊ သိုလှောင်ခန်းများ၊ စက်ပစ္စည်းကိရိယာများ၊ တန်ဆာပလာများနှင့် လုပ်ငန်းဆောင်ရွက်မှု အစရှိသည်တို့ကို "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ"က လိုအပ်သလိုထိရောက်စွာ စစ်ဆေးရန်နှင့် "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" အား အထောက်အပံ့ပြုရန်အတွက် စာရွက်စာတမ်း အထောက်အထားများ၊ သတင်း အချက်အလက်များကို ပြည့်စုံစွာဆောင်ရွက် ပေးရမည်။ လမ်းဖောက်လုပ် ပြုပြင်ခြင်း လုပ်ငန်း ပြီးဆုံး၍ လုပ်ငန်းစတင် ဆောင်ရွက်သည့် အချိန်မှစ၍ "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ"သည် ကောက်ခံ ရရှိသော လမ်း-တံတား အသုံးပြုခ ငွေများနှင့် စပ်လျဉ်းသည့် စာရင်းအင်းများ အပြည့်အစုံ စနစ်တကျ ထားရှိရမည်။ အဆိုပါ စာရင်းအင်းများကို "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" က အခါအား လျော်စွာ စစ်ဆေးခွင့် ရှိရမည်။

၁၉။ ဟန့်တားခြင်း

စစ်ဆေးတွေ့ရှိချက်များအရ အဆိုပါ စက်ရုံ၊အလုပ်ရုံ၊ ပစ္စည်းများ၊ ပုံစံထုတ်ခြင်း သို့မဟုတ် ကျွမ်းကျင်မှု လက်ရာများနှင့် စပ်လျဉ်း၍ ချို့ယွင်းမှု သို့မဟုတ် ပဋိညာဉ်စာချုပ်နှင့် မကိုက်ညီမှု တွေ့ရှိရပါက "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ"၏ တရားဝင်ကိုယ်စားလှယ်က ကန့်ကွက်နိုင်သည့်အပြင် "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ"ထံ ချက်ချင်း အကြောင်းကြားရမည်။ "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ"သည် ချို့ယွင်းချက်ကို ကောင်းစွာ ပြန်လည် ဆောင်ရွက်ပေးရန်နှင့် ကန့်ကွက်ခံရသည့် ပစ္စည်းများကို ပဋိညာဉ် စာချုပ်နှင့်အညီ ဖြစ်စေရန်တာဝန်ယူရမည်။

၂၀။ မလွန်ဆန်နိုင်သော ဖြစ်ရပ်များ

"မလွန်ဆန်နိုင်သောဖြစ်ရပ်" ဆိုသည်မှာ သဘာဝဘေးအန္တရာယ်များ၊ အစိုးရတားမြစ်ချက်၊ သပိတ်မှောက်ခြင်းများ၊ သောင်းကျန်းမှုများ၊အဓိကရုန်းများ၊ ရောဂါဘယကျရောက်ခြင်း၊ ပြည်သူတို့၏ နှောင့်ယှက်ရန်ပြုမှုများ၊ ပေါက်ကွဲမှုများ၊ မီးလောင်ခြင်း၊ ရေကြီးခြင်း၊ မြေလျှောလှုပ်ခြင်း၊ မုန်တိုင်းကျရောက်ခြင်းနှင့် တစ်ဦးဦးက ထိန်းချုပ်နိုင်စွမ်း မရှိသော၊ ထိုက်သင့်သော ဂရုပြုမှု၊ ဝီရိယစိုက်ထုတ်မှု ပြုလျက်နှင့် တစ်ဦးဦးက ကျော်လွှားနိုင်ခြင်း မရှိသော ဖော်ပြခဲ့ပြီးသည့် အလားတူ အကြောင်းတစ်ရပ်ရပ်ကို ဆိုလိုသည်။

စာချုပ်ဝင် တစ်ဖက်ဖက်သည် မလွန်ဆန်နိုင်သော ဖြစ်ရပ်ကြောင့် ဤပဋိညာဉ်စာချုပ်အရ ဆောင်ရွက်ရမည့် တာဝန်များကို ဆောင်ရွက်ရန် (သို့မဟုတ်) အခြား တစ်ဖက်ဖက်၏ ဆောင်ရွက်မှုကို လက်ခံရန် လုံးဝဖြစ်စေ၊ တစ်စိတ်တစ်ဒေသ ဖြစ်စေ ယာယီအားဖြင့် လုပ်ဆောင်နိုင်စွမ်း မရှိလျှင် ထိုသို့ လုပ်ဆောင်နိုင်စွမ်း မရှိသည့်ဖက်မှ မလွန်ဆန်နိုင် သော ဖြစ်ရပ်၏ အသေးစိတ် အကြောင်းအရာ ဖော်ပြလျက် လုပ်ဆောင်နိုင်စွမ်းမရှိသော ဖြစ်ရပ် ပေါ်ပေါက်သည့် နေ့မှ (၁၄) ရက်အတွင်း အခြားတစ်ဖက်သို့ အကြောင်းကြားစာ ပေးပို့ရမည်။ ယင်းသို့ အကြောင်းကြားစာ ပေးပို့ခြင်းကို အခြားတစ်ဖက်က သဘောတူ လက်ခံမှသာ မလွန်ဆန်နိုင်သော ဖြစ်ရပ်မြောက် စေရမည်။

မလွန်ဆန်နိုင်သောဖြစ်ရပ်၏ အကျိုးသက်ရောက်မှုခံရသည့် တစ်ဦးတစ်ဖက်၏ တာဝန်များ ကို အခြားတစ်ဦးတစ်ဖက်၏ အတည်ပြုချက်ဖြင့် ထိုသို့မစွမ်းဆောင်နိုင်မှု ဖြစ်ပေါ်လာသည့် ကာလအတွင်း (ထိုကာလထက် လုံးဝ မကျော်လွန်စေဘဲ) ရပ်ဆိုင်းထားရမည်။ ထို့ပြင် ထိုသို့ မလွန်ဆန်နိုင်သောဖြစ်ရပ် ဖြစ်ပေါ်ရသည့် အကြောင်းရင်းကို ဖြစ်နိုင်သမျှ ဆောလျင်စွာ ဖယ်ရှား ပစ်ရမည်။

၂၀။ အငြင်းပွားမှု ဖြေရှင်းခြင်း၊

ဤသဘောတူစာချုပ်နှင့် ပတ်သက်၍ အငြင်းပွားမှု တစ်စုံတစ်ရာ ပေါ်ပေါက်ပါက နှစ်ဦး နှစ်ဖက် ပြေလည်စွာ ညှိနှိုင်း ဖြေရှင်းရမည်။ ထိုသို့ ဖြေရှင်း၍ မရပါက ထိုအငြင်းပွားမှုကို တစ် ဖက်စီက တစ်ဦးစီ ခန့်ထားသော ခုံလူကြီး နှစ်ဦးဖြင့် ဖြေရှင်းရမည်။ ခုံလူကြီး နှစ်ဦးက ဖြေရှင်း မဆုံးဖြတ်နိုင်လျှင် ခုံလူကြီး နှစ်ဦးက ရွေးချယ်ခန့်ထားသော သမာဓိလူကြီး၏ အဆုံး အဖြတ်ကို ခံယူရမည်။ ခုံလူကြီး နှစ်ဦး (သို့မဟုတ်) သမာဓိလူကြီး၏ ဆုံးဖြတ်ချက်သည် အပြီး ဖြစ်စေရမည်အပြင် နှစ်ဖက် အမှုသည်များ အပေါ်၌လည်း အတည်ဖြစ်စေရမည်။ အနုညာတ စီရင်ဆုံးဖြတ်ခြင်းဆိုင်ရာ လုပ်ထုံး လုပ်နည်းများသည် ၁၉၄၄ ခုနှစ် မြန်မာနိုင်ငံ အနုညာတ စီရင်ဆုံးဖြတ်ခြင်း အက်ဥပဒေ (မြန်မာနိုင်ငံ အက်ဥပဒေအမှတ် ၄/၁၉၄၄)နှင့် နောက်ပိုင်း ထုတ်ပြန်ထားသော တည်ဆဲ ပြင်ဆင်ချက်များနှင့်အညီ ဖြစ်စေရမည်။ အနုညာတ စီရင်ဆုံးဖြတ် မည့် နေရာသည် ပြည်ထောင်စုမြန်မာနိုင်ငံတော် ရန်ကုန်မြို့ ဖြစ်စေရမည်။ အမှုအတွက် ကုန်ကျ စရိတ်များကို အမှုရှုံးသူက ကျခံရမည်။

၂၂။ ပဋိညာဉ်စာချုပ် စတင် အကျိုးသက်ရောက်သည့် နေ့ နှင့် သက်တမ်းကာလ

၂၂-၁။ ဤပဋိညာဉ်စာချုပ်သည် စာချုပ်ဝင် ပုဂ္ဂိုလ်များ နှစ်ဦးနှစ်ဖက် တရားဝင် အတည် ပြု လက်မှတ်ရေးထိုးသည့် နေ့မှစ၍ အကျိုးသက်ရောက်မှု ရှိစေရမည်။

၂၂-၂။ ဤပဋိညာဉ်စာချုပ်၏ သက်တမ်းကာလမှာ နှစ်(၃၀)ဖြစ်ပြီး၊ သက်တမ်းကို ရေတွက် ရာတွင် "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" မှ "လမ်းစီမံကိန်း " ကို လွှဲပြောင်းလက်ခံရရှိ သည့်နေ့ (၂၆-၇-၂၀၀၆) ရက်နေ့မှ စတင် ရေတွက် သတ်မှတ်ရမည်။

၂၃။ ပဋိညာဉ်စာချုပ်ကို ရပ်စဲခြင်း

၂၃-၁။ ဤပဋိညာဉ်စာချုပ်ကို အောက်ဖော်ပြပါ အကြောင်းတစ်ရပ်ရပ် ပေါ်ပေါက်ပါက ရပ်စဲနိုင်သည်-

(က) စာချုပ်ဝင်တစ်ဦးဦးမှ ပဋိညာဉ်စာချုပ်ပါ တာဝန်များ ဆောင်ရွက်ရန် ပျက်ကွက်လျှင်၊

(ခ) စာချုပ်ဝင်တစ်ဦးဦးမှ ပဋိညာဉ်စာချုပ်ပါ စည်းကမ်းချက် တစ်စုံတစ်ရာကို ချိုးဖောက်လျှင်၊

(ဂ) မလွန်ဆန်နိုင်သောဖြစ်ရပ် တစ်ခုခုသည် (၆)လ တစ်ဆက်တည်း ပေါ်ပေါက်လျှင်၊

(ဃ) ဤစာချုပ်ကို ရပ်စဲရန် နှစ်ဦးနှစ်ဘက် သဘောတူလျှင် စာချုပ်ကို ရပ်စဲခွင့်ရှိစေရမည်။

၂၃-၂။ ဤပဋိညာဉ်စာချုပ်ကို ရပ်စဲခြင်းသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ တစ်ဆင့် အစိုးရအဖွဲ့သို့ တင်ပြအတည်ပြုချက် ရရှိမှသာ အကျိုးသက်ရောက် အတည်ဖြစ်စေရမည်။

## ၂၄။ အာမခံချက်

"လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ"သည် နောက်ဆက်တွဲ(က)ပါ အသေးစိတ် ဖော်ပြထားသော TECHNICAL SPECIFICATIONS များနှင့်အညီ ဤပဋိညာဉ်စာချုပ်ပါ လုပ်ငန်းများကို ပြီးဆုံးအောင် ဆောင်ရွက်ရန် အာမခံပါသည်။ ယင်းအာမခံသည် ပဋိညာဉ်စာချုပ်ပါ လုပ်ငန်းများ ပြီးစီးဆောင်ရွက်ပြီးနောက် (၁၂)လထိ တရားဝင်စေရမည်။

## ၂၅။ ပြောင်းလဲခြင်းများ

ပြောင်းလဲခြင်းများကို "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ"၏ တရားဝင်ကိုယ်စားလှယ်မှ ပဋိညာဉ်စာချုပ် သက်တမ်းကာလအတွင်း "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" အား အဆိုပြုလွှာ တင်သွင်းခိုင်း၍ဖြစ်စေ၊ လိုအပ်သည့် ညွှန်ကြားချက်များ ထုတ်ပြန်၍ဖြစ်စေ၊ အခါအားလျော်စွာ ဆောင်ရွက်ပိုင်ခွင့်ရှိသည်။ "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ"၏ တရားဝင်ကိုယ်စားလှယ်မှ လုပ်ငန်းပြောင်းလဲရန် အဆိုပြုလွှာ တင်သွင်းခိုင်းသော်လည်း၊ ၎င်းပြောင်းလဲသည့် လုပ်ငန်းအား ချက်ချင်းဆောင်ရွက်စေခြင်း မပြုစေရပါ။

"လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" အနေဖြင့် လုပ်ငန်းကို ပိုမိုကောင်းမွန်အောင် ပုံစံပြုပြောင်းလဲဆောင်ရွက်ခြင်း လုပ်ငန်းကို "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" ၏ တရားဝင်ကိုယ်စားလှယ် ထံမှ အတည်ပြုခြင်း၊ ဆောင်ရွက်ရန် တစ်စုံတရာ ညွှန်ကြားချက်များမရရှိမီ ဆောင်ရွက်ခြင်း မပြုရ။ "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ"၏ တရားဝင်ကိုယ်စားလှယ်မှ လုပ်ငန်းပြောင်းလဲ ဆောင်ရွက်ရန် အဆိုပြုလွှာ တင်သွင်းရန် တောင်းဆိုလာပါက "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" အနေဖြင့် အောက်ဖော်ပြပါအတိုင်း ဆောင်ရွက်ရမည် -

(က) ပြောင်းလဲအဆိုပြုမည့် လုပ်ငန်းအမျိုးအစားအလိုက် အသစ်ပုံစံပြုလွှာ၊ လုပ်ငန်းအစီအစဉ်နှင့် လုပ်ငန်းစီမံချက်များ ရေးဆွဲတင်ပြရမည်။

(ခ) လိုအပ်သောအသစ် ပြုပြင်ရေးဆွဲထားသည့် လုပ်ငန်းစီမံချက်အတွက် "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ"၏ အဆိုပြုလွှာ ရေးဆွဲတင်ပြရမည်။

"လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ"၏ တရားဝင်ကိုယ်စားလှယ်အနေဖြင့် အဆိုပြုလွှာလက်ခံ ရရှိပြီးနောက် (၁၄)ရက်အတွင်း အတည်ပြုအမိန့်များ သို့မဟုတ် ကန့်ကွက်လွှာများ သို့မဟုတ် ဆောင်ရွက်ခိုင်းသည့် အမိန့်များ ထုတ်ပြန်ပေးရမည်။

"လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" ၏ တရားဝင် ကိုယ်စားလှယ်သည် မိမိညွှန်ကြားသည့် မည်သည့် လုပ်ငန်းပြောင်းလဲခြင်းမဆို "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ"အတွက် အပိုကုန်ကျ စရိတ်ငွေများမရှိ စေရန် အထူးသတိထား ဆောင်ရွက်ရမည်။ မည်သည့်လုပ်ငန်း ပြောင်းလဲခြင်းမှ "လုပ်ငန်းလုပ် ကိုင်ခွင့်ပြုသူ"၏ အတည်ပြုချက် မရယူပဲ ညွှန်ကြားစေခိုင်းခြင်း မပြုရ။

"လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ"၏ တရားဝင်ကိုယ်စားလှယ်သည် လုပ်ငန်းပြောင်းလဲခြင်းအား အတည်ပြုပြီး သို့မဟုတ် ဆောင်ရွက်ရန် ညွှန်ကြားပြီးတိုင်း ပဋိညာဉ်စာချုပ်ပါ သတ်မှတ်ကာလအား ပြန်လည် ပြင်ဆင်သတ်မှတ်ရန် ဆုံးဖြတ်ချက် သို့မဟုတ် သဘောတူညီချက် ရှိအောင် ဆက်လက် ဆောင်ရွက်ပေးရမည်။

**၂၆။ <u>လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ၏ ပျက်ကွက်မှု</u>**

"လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" သည် ယင်း၏ တာဝန်ဝတ္တရားများကို ဆောင်ရွက်ရန် ပျက်ကွက်လျှင်ဖြစ်စေ၊ စာချုပ်ပါလုပ်ငန်းကို ဆောင်ရွက်ခြင်းမပြုလျှင်ဖြစ်စေ၊ "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ"၏ ကိုယ်စားလှယ်သည် အဆိုပါပျက်ကွက်မှုအတွက် သင့်တင့်လျောက်ပတ်သော အချိန်အတွင်း အကောင်းဆုံး ပြန်လည် ဆောင်ရွက်ပေးရန်နှင့် ပြုပြင်ပေးရန် အကြောင်းကြားစာ ပေးပို့နိုင်သည်။

"လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ"သည် စာချုပ်တွင်သတ်မှတ်ထားသော ကာလအတွင်း စာချုပ်ပါ လုပ်ငန်းကို ပြီးစီးအောင် ဆောင်ရွက်နိုင်ခြင်း မရှိပါက "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ"၏ လုပ်ငန်း မပြီးစီးသည့် လုပ်ငန်းဆောင်ရွက်မှုများအပေါ် စိစစ်၍ ထပ်မံလုပ်ခွင့်ပေးရန်မသင့်ဟု ယူဆပါက စာချုပ်ပါ လုပ်ငန်းအား "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ"မှ သိမ်းယူခွင့်ရှိသည်။

**၂၇။ <u>အာမခံထားရှိခြင်း</u>**

"လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ"သည် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့် လုပ်ထုံးလုပ်နည်းများ၊ မြန်မာ့အာမခံဥပဒေနှင့် လုပ်ထုံးလုပ်နည်းများပါ ပြဋ္ဌာန်းချက်များနှင့်အညီ "လမ်းစီမံကိန်း"လုပ်ငန်းအတွက် လိုအပ်သော အာမခံ အရပ်ရပ်ကို ထားရှိ ဆောင်ရွက်ရမည်။

**၂၈။ <u>ပဋိညာဉ်ပြီးဆုံးခြင်း</u>**

ပဋိညာဉ်စာချုပ်ပါ စည်းကမ်းချက်များနှင့်အညီ စာချုပ်ပါလုပ်ငန်းကို "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ"မှ အပြည့်အဝပြီးဆုံးအောင် ဆောင်ရွက်ပြီးစီးသည့် အခါမှသာ ပဋိညာဉ်ပြီးဆုံးသည်ဟု မှတ်ယူရမည်။

**၂၉။ <u>လွှဲပြောင်းပေးအပ်ခြင်း</u>**

"လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ"သည် ဤသဘောတူစာချုပ်အရ လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသည့် ကာလ အနှစ်(၃၀) သို့မဟုတ် လုပ်ငန်းဆက်လက်လုပ်ကိုင်ရန် နောက်ထပ်တိုးမြှင့်သော ကာလများ ပြီးဆုံးပါက အဆိုပါ လမ်းနှင့်တံတားများ၊ ဂိတ်များနှင့် အဆောက်အဦများကို "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ"အား အဖိုးစားနား တစ်စုံတစ်ရာ မရှိဘဲ ကောင်းမွန်သော အနေအထားအတိုင်း လွှဲပြောင်းပေးရမည်။

၃၀။ **စာချုပ်၏အစိတ်အပိုင်းများ**

ဤစာချုပ်ပါ နောက်ဆက်တွဲများသည် စာချုပ်၏ အစိတ်အပိုင်း တစ်ရပ် ဖြစ်စေရမည်။

၃၁။ **ဆက်သွယ်ရန် လိပ်စာများ**

ပဋိညာဉ်စာချုပ်ဝင်များအကြား စာဖြင့်ရေးသား ဆက်သွယ်ရန်လိပ်စာမှာ အောက်ပါအတိုင်းဖြစ်သည် -

**ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း**
**ဆောက်လုပ်ရေးဝန်ကြီးဌာန၊နေပြည်တော်။**

**နှင့်**

**အေးရှားဝါး(လ်)ကုမ္ပဏီလီမိတက်**
**အမှတ်(၆၁-၆၂)၊ ဝါးတန်းလမ်း၊ ဗဟိုစည်အိမ်ရာ၊**
**လမ်းမတော်မြို့နယ်၊ ရန်ကုန်မြို့ ။**

၃၂။ **စာချုပ်လက်မှတ်ရေးထိုးခြင်း**

ဤပဋိညာဉ်စာချုပ်ဝင် ပုဂ္ဂိုလ်များသည် ဤပဋိညာဉ်စာချုပ်ပါ စည်းကမ်းချက်များကို ကိုယ်တိုင် ဖတ်ရှုသိရှိပြီး၊ သက်သေထင်ရှား စိမ့်သောငှာ စာချုပ် ချုပ်ဆိုရာတွင် ပါဝင်သူများသည် အထက်ဖော်ပြပါ ( )ရက်၊ ( )လ၊၂၀၀၈ခုနှစ်တို့တွင် အောက်ပါအသိသက်သေများ ရှေ့မှောက်၌ ဤစာချုပ်ကို လက်မှတ်ရေးထိုး ကြပါသည်။

လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ (ကိုယ်စား) | လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ (ကိုယ်စား)

**( ဦး စင်စောင်ဆေယ် )**
**ဦးဆောင်ညွှန်ကြားရေးမှူး**

**( ဦးထွန်းမြင့်နိုင် )**
**မန်နေးဂျင်းဒါရိုက်တာ**

**သက်သေများ**

(၁)

**အမည်** -

**ရာထူး** -

**လိပ်စာ** -

(၂)

**အမည်** -

**ရာထူး** -

**လိပ်စာ** -

စာနောက်ဆက်တွဲ ( တ )

## နည်းပညာဆိုင်ရာ စံညွှန်းသတ်မှတ်ချက်များ

## TECHNICAL SPECIFICATIONS

In general, the Geometric Design Criteria and Standards to be adopted shall be guided by the traffic volume and to a reasonable level of service. All works shall be constructed to specifications and to acceptable engineering standards.

The following Geometric Design Criteria and Standards shall be followed :-

| | | |
|---|---|---|
| 1 | Design Speed ( m . p . h ) | |
| | Rural Areas | 40 |
| | Urban Areas | 30 |
| 2. | Number of Lanes | 2 |
| 3. | Width of each Lanes( feet ) | 12 |
| 4. | Right of way ( feet ) | 200 |
| 5. | Width of Shoulder ( feet)<br>( Hard Shoulders ) | 7 |
| 6. | Width of Formation ( feet )<br>( for Two Lane ) | 38 |
| 7. | Maximum Grade ( % ) | 4 |
| 8. | Vertical Clearance ( feet ) | 15 |
| 9. | Bridge Loading———————— | AASHTO HS 20-44 |
| 10. | Pavement Maximum<br>Axle Load ( Tons ) | 10 |

နောက်ဆက်တွဲ (၁)

**FORM OF PERFORMANCE BANK GUARANTEE**
**ASIA WORLD 'S BANK**

Ref :
Date :

To : Public Works
Ministry of Construction.
Naypyidaw , Myanmar.

PERFORMANCE BANK GUARANTEE NO.——

In consideration of your having concluded the contract for the construction and managemnt of Kyaukme - Lashio Road Section Project in Northern Shan State, dated ——— with Asia World Co.,Ltd ( hereinafter called " Asia World " ) for the development of the Union Highway in Northern Shan State and it being a condition of the contract that a performance guarantee of one percent ( 1 % ) of the estimated investment cost be established, we (Name of Asia World 's Bank) hereby irrevocably and unconditionally guarantee to pay you without delay on your first written demand through Myanma Economic Bank / -- Bank, Yangon any amount claimed by you up to the extent of ( Bank Guarantee amount ) against your written declaration that Asia World has refused ~~or failed to~~ execute or perform any of the material terms and conditions of the aforesaid contract including that the activities pertinent to the construction of Kyaukme - Lashio Road Section Project shall be commenced within six (6 ) months and the Project shall be operational within forty - two ( 42 ) months from the date of signing of the Contract.

This guarantee shall remain valid until ( date i.e . forty-two months after the date of signing of the Contract ).

Signature :——————
Designation:——————
Bank :——————
City :——————

# LIST OF BRIDGES

| | | |
|---|---|---|
| Stream Crossing | ( opening greater than 500 feet ) | = 1 Nos. |
| Stream Crossing | ( opening 190 feet ) | = 1 Nos. |
| Stream Crossing | ( opening 20 to 50 feet ) | = 10 Nos. |
| Stream Crossing | ( opening 10 to 20 feet ) | = 25 Nos. |
| Stream Crossing | ( opening lower 10 feet ) | = 81 Nos. |
| Small drainage structure | ( 2' Ø R.CC Pipe ) | = 53 Nos |
| | Total | = 171 Nos. |

# MATERIAL SPECIFICATION AND CONSTRUCTION TECHNIQUE FOR APPLICATION OF PRIME COAT

| Material | Construction Technique |
|---|---|
| 1. Either slow curing or medium curing cutback bitumen shall be used.<br><br>2. Proportions of materials<br>(a) Medium curing cutback<br>- 55 % to 65 % of 80-100 penetration grade bitumen and 35 % to 45 % of the mixture of 3 parts kerosene and one part diesel.<br>(b) Slow curing cutback<br>- 50 % to 60 % of 80-100 penetration grade bitumen and 40 % - 50 % of diesel<br><br>3. Application rate 0.1 to 0.25 gallons / sq . yd .<br><br>4. Sand for blinding ( if required )<br>- sand shall pass 3/16" sieve and shall be free from silt, clay and organic matter. | - Sweep dust, mud and foreign materials to clean the surface of the base course.<br><br>- Spray cutback bitumen uniformly to the dry surface of the base course at the rate of 0.1 to 0.25 gal/sq . yd. while the ambient temperature > 55 H F if raising or > 60 $^{H}$ F if falling and while the weather is dry.<br><br>- Allow the prime coat to cure at least 24 hours or until it has penetrated the base satisfactorily.<br><br>- Never allow the traffic during the curing period.<br><br>- If bitumen has not been completely absorbed by the base course within 24 hours after the priming, light sand blinding shall be applied.<br><br>- Sweep all lose or excess sand. |

**MATERIAL AND LAYER SPECIFICATIONS AND CONSTRUCTION TECHNIQUE FOR CONSTRUCTION OF ASPHALT CONCRETE SURFACE COURSE**

| SPECIFICATIONS | | CONSTRUCTION TECHNIQUE | QUALITY CONTROL |
|---|---|---|---|
| MATERIAL | LAYER | | |
| 1. Coarse Aggregates : -<br>Coarse aggregate shall consist of hard, durable fragment of rock whose properties shall be within the following limits : -<br>- Specific gravity 2.5 - 3.0<br>- Silt and Clay content (%) ≯ 1.0<br>- Los Angeles Abrasion(%) ≯ 25.0<br>- Crushing Value (%) ≯ 25.0<br>- Absorption (%) ≯ 2.0<br>- Flakiness Index (%) ≯ 30.0<br><br>2. Fine Aggregates:-<br>(a) Natural sand or crushed rock fine ( < 2.36 mm ) shall be used.<br>(b) Properties of fine aggregates shall be within the following limits:- | 1. Asphalt concrete mixture shall be design by the Marshall method to have the following properties.<br>- No. of blows on each end of the specimen = 75<br>- Stability ( lb ) > 1800<br>- Flow (0.01" ) = 8 - 16<br>- % air voids = 3 - 4<br>- % voids in mineral aggregate. / - Bitumen Content: Shall be specified by the mix design engineer<br><br>2. Compacted thickness<br>Average compacted thickness = Design thickness<br>Compacted thickness at any point > Design thickness;-1/8" | - Prime the surface of the base course as specified.<br>- Preparation of aggregates. preparation of asphaltis concrete mixture, temperature control, transportation, placing, shovelling, raking and tamping after spreading and compaction shall as specified in part C. Section 9, sub - section 9.8.3 to 9.17 of the ROAD CONSTRUCTION SPECIFICATIONS, D.E.( ROADS), CONSTRUCTION CORPORATION or as specified by the mix design engineer. | 1. Measurement of Marshal stability and flow:-<br>- Frequency of measurement = 1/500 ft.<br><br>2. Measurement of compacted thickness<br>- Frequency of measurement = 1/100 ft.<br><br>3. Measurement of camber and level<br>- Frequency of measurement = 1/100 ft. |

## MATERIAL AND LAYER SPECIFICATIONS AND CONSTRUCTION TECHNIQUE FOR CONSTRUCTION OF ASPHALT CONCRETE SURFACE COURSE

| SPECIFICATIONS | | CONSTRUCTION TECHNIQUE | QUALITY CONTROL |
|---|---|---|---|
| MATERIAL | LAYER | | |
| - Specific gravity 2.6 - 2.8<br>- Silt and Clay content (%) $\ngtr$ 1.0<br>- Absorption (%) $\ngtr$ 6.0<br>- Organic impurities (ppm) $\ngtr$ 500<br>- Passing 200 sieve (%) $\ngtr$ 4.0<br>- Fineness modulus 2.0 -3.6<br><br>3. Filler ( < 0.075 mm )<br>- cement, hydrated lime, limestone dust and other rock dust free from silt and clay may be used.<br>filler used shall be thoroughly dry.<br><br>4. Binder<br>- 80/100 penetration grade bitumen shall be used. | 3. Camber and level.<br><br>- Deviation under 10' straight edge applied both parallel and right angle to the center of the pavement $\ngtr$ 1/8"<br><br>- Level of the top surface $\ngtr$ specified level<br>$\nless$ specified level -1/8" | - Measure Density.<br><br>- Measure Compacted Thickness.<br><br>- Measure Camber and Level.<br>Compacted layer which does not conform to layer specification shall be dug out, new mix produced and reconstructed. | |



# DIAMOND PALACE CO., LTD.

84th Street, Between 27th & 28th Street, South Taik Tan Gyi, Zegyo, Chan Aye Tharsan Township,
Mandalay, Myanmar. Tel : 02-28031, 02-39494, 02-39495, 02-39991, Fax : 9502-39992
E-mail - zegyo@mandalay.net.mm, d_palace@mandalay.net.mm

သို့

ဦးဆောင်ညွှန်ကြားရေးမှူး
အေးရှားဝေါ(လ်) ကုမ္ပဏီလီမိတက်
ရန်ကုန်

စာအမှတ်။ ၁၁၉၀ / ဒိုင်းမွန်း / ၂၀၀၆
ရက်စွဲ ။ ၂၀၀၆ခုနှစ်၊ အောက်တိုဘာလ(၂၆)ရက်

အကြောင်းအရာ။ စဥ့်အင်တံတား သံမဏိဘောင်အတွက် MFTB Credit လက်ခံရရှိခြင်းကိစ္စ။

စဥ့်အင်တံတား သံမဏိဘောင်များ၏ ရန်ကုန်ဆိပ်ကမ်းရောက်တန်ဖိုး (CIF Yangon) ဖြစ်သည့် (USD 156,233.43)၏ (MFTB Credit No- F_ ၄၇၄၆/၂၀၀၆)အား လက်ခံရရှိပါသည်။

26/10

အထွေထွေမန်နေဂျာ ဦးဝင်းတင်
ဥက္ကဌ(ကိုယ်စား)
ဒိုင်းမွန်းပဲလေ့(စ်)ကုမ္ပဏီလီမိတက်

3 (B), Thitsar Road, 6 Block, Yankin Tsp, Yangon, Myanmar. Tel : 95-01-578929, 726767, 560227 Fax : 95-01-560227
E-mail - d_palace@mandalay.net.mm.



# DIAMOND PALACE CO., LTD.

84th Street, Between 27th & 28th Street, South Taik Tan Gyi, Zegyo, Chan Aye Tharzan Township,
Mandalay, Myanmar. Tel : 02-28031, 02-39494, 02-39495, 02-39991, Fax : 9502-39992
E-mail - zegyo@mandalay.net.mm, d_palace@mandalay.net.mm

ရက်စွဲ၊ ၂၀၀၇ ခုနှစ်၊ ဧပြီလ (၂ ) ရက်

အကြောင်းအရာ။ ။ ငွေပေးချေခြင်းနှင့် လက်ခံရရှိခြင်း။

ရည်ညွှန်းချက်။ ။ (၁၉. ၃. ၂၀၀၇)ရက်စွဲပါစာချုပ်။

ရည်ညွှန်းပါစာချုပ်ပါ အပိုဒ်(၄)၊ အပိုဒ်ခွဲ(ဂ)အရ Diamond Palace Co.,Ltd သို့ Asia World Co.,Ltd မှ နောက်ဆုံးပေးချေရန်ကျန်ရှိသောငွေများအားလုံး ပြေကြေစွာလက်ခံရရှိပါသည်။

| | |
|---|---|
| ပေးချေသူ | လက်ခံသူ |
| (ဦးမောင်ကျော်) | (ဦးသိန်းသန်း) |
| ဒါရိုက်တာ | ဥက္ကဋ္ဌ |
| Asia World Co.,Ltd | Diamond Palace Co.,Ltd |

လျှို့ဝှက်

၈၂

# INNWA BANK LIMITED




No.554/556, Merchant Street
Kyauktada Township,
Yangon, Myanmar.
☎ 391131, 391132

---

Date. 27-6-2007

TO

U Htun Myint Naing
(Asia World Co.,Ltd)
12/MaYaKa(N)101635
No(61/62),Bahosi Housing,LanMaDaw Tsp,Ygn.

Dear Sir,

We hereby certify that the balance standing at the credit of the account of 22-01535 with INNWA BANK LTD (Yangon Branch) at the close of business on the 26-06-2007 was K 3,125,424,057.17 (Kyat Three Thousand One Hundred Twenty Five Million Four Hundred Twenty Four Thousand Fifty Seven and Pyas Seventeen Only).

Your Faithfully,

A .38

Manager
ACCOUNTS DEPT.
INNWA BANK LIMITED

လျှို့ဝှက်

# MYANMA FOREIGN TRADE BANK
## BANK STATEMENT

Account No 1DA0491134
Name of Account: ASIA WORLD CO LTD
Address: 61-62, BAHOSI DEVELOPMENT. WADAN ST

Bank Statement From 01/June/2007 To 30/June/2007

| Date | Particular | | CUR | Debit | Credit | Balance |
|---|---|---|---|---|---|---|
| | BALANCE FORWARD | | | 0.00 | 0.00 | 373,994.70 |
| 04/06/2007 | MF32BOCPE01079 | T L | USD | 102.92 | 0.00 | 373,891.78 |
| 04/06/2007 | MF32COCPE01083 | T L | USD | 8,405.00 | 0.00 | 365,486.78 |
| 04/06/2007 | TO 0494650 | T L | USD | 1.37 | 0.00 | 365,485.41 |
| 04/06/2007 | TO 0494650 | T L | USD | 282,182.29 | 0.00 | 83,303.12 |
| /06/2007 | FROM 0496400 | T | USD | 0.00 | 145,583.32 | 228,886.44 |
| 2007 | FROM 0496400 | T | USD | 0.00 | 80,527.72 | 309,414.16 |
| /0 2007 | MF32BOCPE01079 | T L | USD | 6,525.00 | 0.00 | 302,889.16 |
| 04, 007 | MF32COCPE01083 | T L | USD | 102.92 | 0.00 | 302,786.24 |
| 05/ 007 | FROM 0496400 | T | USD | 0.00 | 40,044.51 | 342,830.75 |
| 07/0 007 | FR0493068 | T | USD | 0.00 | 131,136.00 | 473,966.75 |
| 08/06/2007 | MF31AOCPE04712 | T | USD | 0.00 | 2,495.50 | 476,462.25 |
| 08/06/2007 | MF31FOCPE05700 | T | USD | 0.00 | 3,499.70 | 479,961.95 |
| 08/06/2007 | FR0490852 | T | USD | 0.00 | 179,069.97 | 659,031.92 |
| 2/06/2007 | MF31BOCPE05945 | T | USD | 0.00 | 6,080.00 | 665,111.92 |
| 3/06/2007 | FR0493068 | T | USD | 0.00 | 77,124.50 | 742,236.42 |
| 4/06/2007 | MF32BOCPE01487 | T L | USD | 102.17 | 0.00 | 742,134.25 |
| 4/06/2007 | MF32AOCPE01477 | T L | USD | 12,654.00 | 0.00 | 729,480.25 |
| 4/06/2007 | MF32AOCPE01477 | T L | USD | 102.17 | 0.00 | 729,378.08 |
| 4/06/2007 | MF32DOCPE01485 | T L | USD | 1,890.00 | 0.00 | 727,488.08 |
| 4/06/2007 | MF32DOCPE01485 | T L | USD | 102.17 | 0.00 | 727,385.91 |
| 1/06/2007 | MF32BOCPE01487 | T L | USD | 6,525.00 | 0.00 | 720,860.91 |
| 5/06/2007 | FR0493068 | T | USD | 0.00 | 90,000.00 | 810,860.91 |
| 5/06/2007 | MF32COCPE00027 | T L | USD | 81.32 | 0.00 | 810,779.59 |
| /2007 | MF31EOCPE05867 | T L | USD | 81.42 | 0.00 | 810,698.17 |
| /7 | | L | USD | 0.00 | 3,302,573.22 | 4,113,271.39 |
| /7 | FR0496400 | T | USD | 0.00 | 3,780.00 | 4,117,051.39 |
| 07 | FR0493068 | T | USD | 0.00 | 12,162.66 | 4,129,214.05 |
| /06 07 | FR0493068 | T | USD | 0.00 | 14,460.00 | 4,143,674.05 |
| /06, 7 | FR0496400 | T | USD | 0.00 | 12,580.00 | 4,156,254.05 |
| /06/2007 | MF32COCPE01083 | T L | USD | 150.66 | 0.00 | 4,156,103.39 |
| /06/2007 | FR0493068 | T | USD | 0.00 | 12,500.00 | 4,168,603.39 |
| '06/2007 | MF32ACHPE00001 | T L | USD | 82.26 | 0.00 | 4,168,521.13 |
| '06/2007 | ITTG2704/07 | T | USD | 0.00 | 108,577.87 | 4,277,099.00 |
| 06/2007 | ITTG2340/07 | T | USD | 0.00 | 229,486.19 | 4,506,585.19 |
| 06/2007 | ITTG2798/07 | T | USD | 0.00 | 104,928.54 | 4,611,513.73 |
| 06/2007 | ITTG2773/07 | T | USD | 0.00 | 375,750.73 | 4,987,264.46 |
| 06/2007 | ITTG2270/07 | T | USD | 0.00 | 260,594.89 | 5,247,859.35 |
| | | | | 319,090.67 | 5,192,955.32 | 5,247,859.35 |

IIS STATEMENT SHOULD BE CAREFULLY CHECKED AND ANY DISCREPANCY SHOULD BE REPORTED TO THE BANK IMMEDIATELY.

Bank Manager
Current Department
Myanma Foreign Trade Bank

လျှို့ဝှက်

၈၄



ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
ဘဏ္ဍာရေးနှင့်အခွန်ဝန်ကြီးဌာန
ဝန်ကြီးရုံး

စာအမှတ်၊ ဘခ-၁/ ၂၉၉(၁၆၀၀ / ၂၀၀၇)
ရက်စွဲ၊ ၂၀၀၇ ခုနှစ်၊ ဇွန်လ ၂၆ ရက်

အကြောင်းအရာ။ နိုင်ငံခြားသုံးငွေအား ငွေစာရင်းလွှဲပြောင်းခြင်း ( Account Transfer )ဖြင့် ပေးချေခွင့်ပြုခြင်းကိစ္စ

ရည်ညွှန်း ချက် ။ ရသုံးမှန်းခြေငွေစာရင်းဦးစီးဌာန၏ ၂၉-၅-၂၀၀၇ ရက်စွဲပါ စာအမှတ် -

(က) ဘ-၆(၁)(၀၃၀/၂၀၀၇)(၄၃၂)
(ခ) ဘ-၆(၁)(၀၃၀/၂၀၀၇)(၄၃၃)
(ဂ) ဘ-၆(၁)(၀၃၀/၂၀၀၇)(၄၃၄)

ဝန်ကြီးချုပ်ရုံးမှ အထူးဖွံ့ဖြိုးရေးစီမံကိန်း အကွက်ကြီး(၅)ကွက် တည်ဆောက်ရေးအတွက် ပစ္စည်းများဝယ်ယူရာတွင် အောက်ပါကုမ္ပဏီများသို့ ပေးချေခဲ့သည့် ငွေများအပေါ် ဝင်ငွေခွန် ၁၀% ဖြတ်တောက်ခြင်းမှ ကင်းလွတ်ခွင့်ပြုရန်နှင့် Export Earning အဖြစ်သတ်မှတ်ရန်အကြောင်းကြားပါသည် -

(က) Asia World Co. ထံမှ အလူမီနီယမ်နှင့် ဆက်စပ်ပစ္စည်းများ ဝယ်ယူခြင်းအတွက် မြန်မာ့နိုင်ငံခြားကုန်သွယ်မှုဘဏ်ရှိ Asia World Co. ငွေစာရင်းအမှတ်၊ 1DA 0491143 သို့စာရင်းပြောင်းပေးငွေ US$ 3,302,574.585

(ခ) × × × × × × × × × ×
× × × × × × × × × ×
× × × × × × × × × ×

(ဂ) × × × × × × × × × ×
× × × × × × × × × ×
× × × × × × × × × ×

ဝန်ကြီး(ကိုယ်စား)
( ဘထွေးချစ် ၊ ရုံးအဖွဲ့မှူး )

မြန်မာ့နိုင်ငံခြားကုန်သွယ်မှုဘဏ်၊
မြန်မာ့ ရင်းနှီးမြှုပ်နှံမှုနှင့် ကူးသန်းရောင်းဝယ်ရေးဘဏ်၊
ရသုံးမှန်းခြေငွေစာရင်းဦးစီးဌာန၊
ပြည်တွင်းအခွန်များဦးစီးဌာန၊

လျှို့ဝှက်

# ကျောက်မဲ - လားရှိုး
# (မိုင်တိုင် - ၁၂၃/၀ မှ ၁၈၂/၀ ထိ)

# ( ၄၉ )မိုင် လမ်းအပိုင်းကို

# ပြုပြင်ဖေါက်လုပ်
# လုပ်ငန်းလုပ်ကိုင်ရေးစီမံကိန်း

# မီးဘေးအန္တရာယ် ကြိုတင်ကာကွယ်ရေး
# လုပ်ငန်းစီမံချက်

**ASIA WORLD CO., LTD**

ဖြန့်ဝေခြင်း-

( ၁ ) စီမံကိန်း ဒါရိုက်တာ၊
( ၂ ) စီမံကိန်း စခန်းရုံးများ အားလုံး။
( ၃ ) ကြေငြာသင်ပုံး။

## ကျောက်မဲ -လားရှိုး ( မိုင်တိုင် ၁၂၃/၀ မှ ၁၇၂/၀ ထိ)
## (၄၉-မိုင်) လမ်းအပိုင်းကို ပြုပြင် ဖေါက်လုပ်ရေးလုပ်ငန်း စီမံကိန်းတွင်
## မီးဘေး လုံခြုံရေး စီမံချက်

### ရည်ရွယ်ချက်

၁။ ကျောက်မဲ-လားရှိုး မိုင်တိုင် ၁၂၃/၀ မှ ၁၇၂/၀ ထိ (၄၉-မိုင်) လမ်းအပိုင်းအား ပြုပြင် ဖေါက်လုပ်၍ လမ်းအသုံးပြုခ ကောက်ခံသည့် လုပ်ငန်းစီမံကိန်းတွင် မလိုလားအပ်သော မီးဘေး အန္တရာယ်ကြောင့် ငွေကြေးနှင့် အခြားဆုံးရှုံးမှုများ မဖြစ်စေရေးအတွက် ထိရောက်သော ကြိုတင် ကာကွယ်မှုများ ဆောင်ရွက်သွားရန် ။

### တည်နေရာ

၂။ ကျောက်မဲ-လားရှိုး (မိုင်တိုင် ၁၂၃/၀ မှ ၁၇၂/၀ ထိ )(၄၉-မိုင်) လမ်းအပိုင်းစီမံကိန်း ရုံးများ၊ စခန်းများ ၊ တိုးဂိတ်များ တည်ရှိရာ နေရာများတို့တွင် ဖြစ်သည်။

### လုပ်ငန်းတာဝန်

၃။ ရည်ရွယ်ချက်အား အောင်မြင်စွာ အကောင်အထည်ဖေါ်နိုင်ရန် အောက်ပါ လုပ်ငန်း တာဝန်များကို ထိရောက်စွာ လိုက်နာဆောင်ရွက် သွားရမည်ဖြစ်သည်-

(က) မီးဘေး အန္တရာယ် ကြိုတင် ကာကွယ်ရေး လုပ်ငန်း၊
(ခ) မီးငြိမ်းသတ်ရေး လုပ်ငန်း၊
(ဂ) ပြန်လည် နေရာချထားရေးနှင့် ပြန်လည် ထူထောင်ရေး လုပ်ငန်း။

### မီးဘေး အန္တရာယ် ကြိုတင်ကာကွယ်ရေး လုပ်ငန်း၊

၄။ ကြိုတင်ကာကွယ်ရေးလုပ်ငန်းသည် အခြေခံ အကျဆုံးနှင့် အထိရောက်ဆုံး လုပ်ငန်းဖြစ်၍ အောက်ပါ ညွှန်ကြားချက်များကို တိကျစွာ လိုက်နာဆောင်ရွက်ရန်နှင့် အချိန်အခါနှင့် အခြေ အနေအရ ဖြည့်စွက် ညွှန်ကြားချက်များက လိုက်နာဆောင်ရွက်သွားရန် ဖြစ်သည်။

(၁) မီးလောင်မှုဖြစ်စေနိုင်သော အခြေအနေများကို ဖယ်ရှားတားမြစ်ရန်။
(၂) စီမံကိန်းအတွင်း မီးလောင်မှုဖြစ်စေနိုင်သည့် စွန့်ပစ် ပစ္စည်းများ၊ အမှိုက်များ၊ ပေါင်းမြက်များကို အမြဲ သန့်ရှင်းအောင် ရှင်းလင်း ထားရမည်။
(၃) လောင်စာဆီများကို သတ်မှတ် ကန့်သတ်ချက် နည်းလမ်းအတိုင်း စနစ်တကျ သို လှောင်ခြင်း၊ ဖြည့်တင်းခြင်း၊ အသုံးပြုခြင်းနှင့် စွန့်ပစ်ခြင်းများ ပြုလုပ်ရမည်။
(၄) စီမံကိန်းအတွင်း ဆေးလိပ်၊ မသောက်ရ၊ မီးမပေါ်ဆရ၊ မီးကို စနစ်တကျ သုံးစွဲ ပါ၊ စသည့် မီးဘေးအန္တရယ် သတိပေးချက် စာတန်း၊ ဆိုင်းဘုတ်များ ချိတ်ဆွဲ ရေးသားထားခြင်း။ အထူးသဖြင့် မီးလောင်လွယ်သည့် ပစ္စည်းများ ထားသိုကိုင် တွယ်သည့် နေရာတို့တွင် အထူးသတိပေး တားမြစ်ချက်များ ဆောင်ရွက်ထား ရမည်။

(၅) လျှပ်စစ်သွယ်တန်းအသုံးပြုခြင်းကို- မြန်မာ့လျှပ်စစ်လုပ်ငန်းမှ ပြဋ္ဌာန်းချက်များ၊ နည်းပညာ သတ်မှတ်ချက်များအတိုင်း တပ်ဆင် အသုံးပြုသွားရမည်။

(၆) အဆောက်အဦတွင် မိုးကြိုးလွှဲနှင့် မြေစိုက်ကြိုးများ တပ်ဆင်ရမည်။

(၇) ရုံးသုံး၊လုပ်ငန်းခွင်သုံး၊ ပစ္စည်းများကို မီးလောင်မှု ဖြစ်ပွားလျှင် သယ်ဆောင်ဖယ်ရှားရန် ဦးစားပေးအဆင့် အမှတ်အသားများ ရေးဆွဲ သတ်မှတ် ထားရမည်။

(၈) မီးဘေးကြိုတင်ကာကွယ်ရေး၊ မီးငြိမ်းသတ်ရေး အဖွဲ့များ ဖွဲ့စည်းပေး၍ ပညာပေးသင်တန်းများ ပို့ချပေးရမည်။

(၉) မီးသတ် ဆေးဗူးများ၊ မီးသတ်ရေ ပိုက်ခေါင်းများ ရေလှောင်ကန်များ အစဉ်ရေအပြည့် ဖြည့်၍ ထားရှိရမည်။

မီးငြိမ်းသတ်ရန်ကြိုတင်လုပ်ငန်း

၅။ မီးလောင်မှု မဖြစ်ပွားရေးအတွက် ကြိုတင်ကာကွယ်ရေးနှင့် မီးလောင်မှု ဖြစ်ပွားလာပါက အောက်ပါအတိုင်း လုပ်ငန်းများကို စနစ်တကျ လိုက်နာဆောင်ရွက် သွားရမည်-

(၁) အဆောက်အဦတိုင်းနှင့် လိုအပ်သောနေရာတိုင်းတွင် မီးသတ်ဆေးဗူးများ၊ ရေပုံး၊ သဲပုံး များ၊ မီးချိတ် မီးကတ်များ၊ ထားရှိရမည်။

(၂) အလိုအလျောက် မီးအချက်ပေး စနစ်များနှင့် အချက်ပေး သံချောင်းများ တပ်ဆင်ရမည်။

(၃) မီးလှန့် အချက်ပေးမည့် စနစ်ကို သတ်မှတ်ထားရမည်။

(၄) မီးလောင်လျှင် ဦးစားပေး ငြိမ်းသတ်ရေးကို သတ်မှတ်ရမည်။

(၅) မီးဘေးလုံခြုံရေး ဝန်ထမ်းကို နေ့စဉ် တာဝန် ချထားရမည်။

(၆) မီးလောင်မှုဖြစ်ပွားပါက အောက်ပါတို့ကို ချက်ခြင်း၊ အရေးတကြီး ပြုလုပ်ရမည်-

(က) အချက်ပေး ခေါင်းလောင်း သံချောင် ခေါက်ခြင်း၊

(ခ) မီးသတ်ဦးစီဌာနသို့ အမြန်ဆုံး မီးသတ်ကား လာရောက် ငြိမ်းသတ်နိုင်ရန် လမ်းညွှန် အကြောင်းကြားခြင်း၊

(ဂ) ဦးစားပေး ပစ္စည်းများ မီးလွတ်ရာသို့ ရွှေ့ပြောင်းခြင်း၊

(ဃ) မီးငြိမ်းသတ်ခြင်း၊

ပြန်လည်နေရာချထားရေးနှင့် ပြန်လည်ထူထောင်ရေးလုပ်ငန်း

၆။ အကယ်၍ မီးလောင်မှုကြောင့် လူနှင့် စက်ပစ္စည်းများကို အရေးပေါ် ပြောင်းရွှေ့မှုများ ပြုလုပ် ခဲ့ရသဖြင့် ထိခိုက်မှု ဆုံးရှုံးမှုများ ရှိပါက တာဝန် ရှိကြီးကြပ်သူများသို့ တင်ပြ၍ နေရာချထား ပေးခြင်း၊ ဆေးပေးခန်း၊ဆေးရုံသို့ ပို့ဆောင်၍ ဆေးကုသမှုခံယူစေခြင်းနှင့် ကူညီထောက်ပံ့မှုပေးခြင်း တို့ကို ဆောင်ရွက်ရမည်။

လျှို့ဝှက်

၁၁



သက်တမ်းတိုး

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ

အမျိုးသားစီမံကိန်းနှင့် စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန

# ကုမ္ပဏီမှတ်ပုံတင်လက်မှတ်

အမှတ် ......၁၂၀....... / ၁၉၉၂ - ၁၉၉၃

မြန်မာနိုင်ငံ ကုမ္ပဏီများအက်ဥပဒေအရ ......အေး ရှား ဝါး (လ်) ကုမ္ပဏီ လီမိတက်......

.................................... အား ပေးရန်တာဝန် ကန့်သတ်ထားသော လီမိတက်

ကုမ္ပဏီအဖြစ် ၁၉၉၂ ခုနှစ် ......ဇွန်........ လ ...၅.. ရက်နေ့တွင် မှတ်ပုံတင်ခွင့်ပြုလိုက်သည်။

( အောင်မျိုး )

ကုမ္ပဏီများမှတ်ပုံတင်အရာရှိ

ကုမ္ပဏီများမှတ်ပုံတင်ရုံး

ဆောက်လုပ်ရေး
CONSTRUCTION

❁ ❁ ❁

THE GOVERNMENT OF THE UNION OF MYANMAR
MINISTRY OF NATIONAL PLANNING AND
ECONOMIC DEVELOPMENT

# CERTIFICATE OF INCORPORATION

No. ......120...... of 1992 - 1993

I hereby certify that ......ASIA WORLD COMPANY LIMITED...... is this day incorporated under the Myanmar Companies Act and that the company is Limited.

Given under my hand at Yangon this ......FIFTH...... day of JUNE, ONE THOUSAND NINE HUNDRED AND NINETY TWO.

( AUNG MYO )

Registrar of Joint Stock Companies

Companies Registration Office.

H. 17306

လျှို့ဝှက်

ဤကုမ္ပဏီ မှတ်ပုံတင်လက်မှတ်၏ သက်တမ်းသည်
(၃၁-၃-၀၇)နေ့တွင် ကုန်ဆုံးမည်ဖြစ်သည်။
သက်တမ်းမကုန်ဆုံးမီ(၃)လ အလိုတွင် သက်တမ်း
တိုးရန် ကုမ္ပဏီမှတ်ပုံတင်မှုသို့ လျှောက်ထားရမည်။

ကုမ္ပဏီများမှတ်ပုံတင်အရာရှိ
( သုက်သုက်တင် )

**လျှို့ဝှက်**

**၉၀**

ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရ

အမျိုးသား စီမံကိန်း နှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန

ရင်းနှီးမြှုပ်နှံမှု နှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန

(ကုမ္ပဏီများ မှတ်ပုံတင်ရုံး)

စာအမှတ်၊ ၇က–ဂ (ဂ) ၀၀၁/၂၀၀၆ ( [illegible] )
ရက်စွဲ၊ ၂၀၀၆ ခုနှစ်၊ [illegible] လ (၂၄) ရက်

အကြောင်းအရာ။ ကုမ္ပဏီ မှတ်ပုံတင် လက်မှတ် သက်တမ်းတိုးခြင်းကိစ္စ။

ရည်ညွှန်းချက် ။ ကုမ္ပဏီ၏ ၆-၃-၂၀၀၆ ရက်စွဲပါစာ။

၁။ အထက် ရည်ညွှန်းပါစာဖြင့် အေး ၃၁း ဝါး (လ်) ကုမ္ပဏီ – လီမိတက် မှ သက်တမ်းတိုးမြှင့် ပေးပါရန် တင်ပြလာခြင်းကို (၂၃.၃.၂၀၀၆) ရက်နေ့တွင် ကျင်းပပြုလုပ်သည့် ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ်( [illegible] )မှ ( [illegible] )ရက်နေ့ အထိ (၂) နှစ် သက်တမ်းတိုးမြှင့် ခွင့်ပြုလိုက်သည်။

၂။ သို့ပါ၍ အေး ၃၁း ဝါး (လ်) ကုမ္ပဏီ – လီမိတက် မှ ကျပ်(၁၀၀,၀၀၀/)ပေးသွင်းပြီးဖြစ်ပါ၍ရုံးတွင်းမှတ်ပုံတင်အမှတ် ၁၂၀/၉၂-၉၃(၁-၆-၉၂) ဖြင့် သက်တမ်းတိုး မှတ်ပုံတင်လက်မှတ်ကို ထုတ်ပေးလိုက်သည်။

ကုမ္ပဏီများ မှတ်ပုံတင်အရာရှိ (ကိုယ်စား)

(သိုက်သိုက်တင် - လက်ထောက်မှတ်ပုံတင်အရာရှိ)

အုပ်ချုပ်မှုဒါရိုက်တာ၊
အမှတ် (၆၁/၆၂)၊ ဗဟိုစည်အိမ်ယာ၊
ဝါးတန်းလမ်း၊ လမ်းမတော်မြို့နယ်၊
ရန်ကုန်မြို့။

**လျှို့ဝှက်**

CARD NO. လျှို့ဝှက်
၉၁

ORIGINAL

1. Name and Address of Enterprise
လုပ်ငန်းအမည်နှင့် လိပ်စာ
ASIA WORLD COMPANY LIMITED.
NO.(61-62),BAHOSI COMPOUND,
WARDAN STREET,LANMADAW TOWNSHIP,
YANGON.

2. Contact No. ဆက်သွယ်ရန်

| 225271,220074 | 227474 | |
|---|---|---|
| Telephone No. တယ်လီဖုန်းနံပါတ် | Fax No. ဖက်စ်နံပါတ် | Telex No. တဲလက်စ်နံပါတ် |

3. Business Registration No. 120/1992-93
လုပ်ငန်းမှတ်ပုံတင်အမှတ်

4. Registration No. & Date 20 5 94
ကြီးကြပ်အမှတ်နှင့် နေ့စွဲ
HWA THA KA
2977

Union of Myanmar
Ministry of Commerce
Directorate of Trade
ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန
ကုန်သွယ်ရေးညွှန်ကြားမှုဦးစီးဌာန

CERTIFICATE OF EXPORTER/IMPORTER REGISTRATION
ထုတ်ကုန်သွင်းကုန်လုပ်ငန်းရှင် မှတ်ပုံတင်လက်မှတ်

Note: ☐ Please tick ( √ ) where applicable
သက်ဆိုင်ရာအကွက်ကိုအမှန် အမှတ်အသားပြုပါ

Type of Business လုပ်ငန်းအမျိုးအစား
☐ a) Sole Proprietorship တစ်ဦးတည်းပိုင်
☐ b) Partnership အစုစပ်
☑ c) Limited Company (Myanmar or Foreign) လီမိတက်ကုမ္ပဏီ (မြန်မာ / နိုင်ငံခြား)
☐ d) Co-operative Society သမဝါယမအသင်း
☐ e) Others (please specify) ..........
အခြား (ဖော်ပြရန်)

6. Terms and Conditions စည်းကမ်းချက်များ
I hereby register the above mentioned enterprise as Exporter / Importer subject to the following terms and conditions:
အောက်ဖော်ပြပါ စည်းကမ်းချက်များဖြင့် ထုတ်ကုန်သွင်းကုန် လုပ်ငန်းရှင်အဖြစ် မှတ်ပုံတင်ခွင့်ပြုသည်။

(a) Line of goods permitted - all items except prohibited and restricted items.
ခွင့်ပြုသည့်ကုန်ပစ္စည်းအမျိုးအမည် တားမြစ်ကန့်သတ်ထားသော ကုန်ပစ္စည်းအမယ်များမှလွဲ၍ ကုန်ပစ္စည်းများအားလုံး

(b) The enterprise must abide by the Export/ Import Rules and Regulations prescribed for the registered Exporters/Importers.
လုပ်ငန်းရှင်သည် မှတ်ပုံတင် ထုတ်ကုန်သွင်းကုန်လုပ်ငန်း လုပ်ကိုင်သူများ လိုက်နာရမည့် စည်းကမ်းချက်များကို လိုက်နာရမည်။

(c) The registration is valid for THREE year(s) up to 20-5-94 TO 19-5-97
မှတ်ပုံတင်သက်တမ်း
၂ တိ ချက်။ ။ သက်တမ်းဆိုးရန် နေ့ရက်မှ ၁ နှစ်တွင် ကဒ်အမှတ် (၂) ကိုထုတ်ပေးသည်။

XXXXXX
For DIRECTOR GENERAL
ညွှန်ကြားရေးမှူးချုပ် (ကိုယ်စား)
(MG WIN-ASSISTANT DIRECTOR)




Stamp
ရုံးတံဆိပ်

7. Extension of Export/Import Registration Period ထုတ်ကုန် သွင်းကုန်လုပ်ငန်း လုပ်ငန်းရှင် မှတ်ပုံတင်အား သက်တမ်းတိုးမြှင့်ပေးခြင်း

Period Extended
သက်တမ်းတိုးမြှင့်သည့်ကာလ

Authorised Signature & Name
ခွင့်ပြုသူလက်မှတ်နှင့်အမည်

* ဘဏ်စာ ၃၀/၂၀၀၄ အရ (၆) လတိုး သည်။

(4) 20. 5. 2005 up to 19. 11. 2005 — 23/3/05 AUNG SOE-DEPUTY DIRECTOR
မှ ထိ

(2) 20. 11. 2005 up to 19. 5. 2006 — THAN THAN EI - ASSISTANT DIRECTOR
[EISC 36/2005 (၁-၁-၀၅) ...]

(3) 20-5-2006 up to 31-3-2008 — THAN THAN EI - ASSISTANT DIRECTOR

လျှို့ဝှက်

လိုပ္ဂုတ်

၉၂

FORM XXVI

PARTICULARS OF DIRECTORS, MANAGERS AND MANAGING AGENTS AND OF ANY CHANGES THEREIN

(Myanmar Companies Act, Sec Section 87)

Name of Company : ASIA WORLD COMPANY LIMITED

Presented by : U Htun Myint Naing Managing Direct



| The present christian name or names of surnames | Nationality, National Registration Card No. | Usual Residential Address | Other Business Occupation | Changes |
|---|---|---|---|---|
| 1. U Htun Myint Naing | Myanmar KLG - 051023 | No.124, 8/9 Quarter, Insein Road, Hlaing Township, Yangon. | Merchant | Managing Director |
| 2. U Than Myint | Myanmar H/RGN - 018951 | NO.62, Shwedaungdan Street, Lanmadaw Township, Yangon. | Merchant | Director |
| U Maung Kyay | Myanmar KYN - 006425 | No.36, Yegyaw Street, Pazundaung Township, Yangon. | Merchant | Change address to No.12(A), Pinlon Yeik Mon Lane (2), Kyee Pwar Yae (North) Quarter, Thingangyun Township, Yangon. |

NOTE : (1) A complete list of the Directors or Managers or Managing Agents shown as existing in the last particulars.

(2) A note of the changes since the last list should be made in the column for "Changes" by placing against the new Director's name the word "in place of ........ and by writing against any former Director's name the word "dead" "resigned" or as the case may be giving the day of change against the entry.

ted this ....28-1-05.................................



Signature ..........................

Designation ........ HTUN MYINT NAING MANAGING DIRECTOR ASIA WORLD CO., LTD

လိုပ္ဂုတ်